





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၈၀ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးစိုင်းအောင်ကြီး

(ခ) **အဘ အမည်** ဦးသန်းဒန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၁၃/ကမန(နိုင်) ၀၀၀၄၃၅

(ဃ) **နေရပ်လိပ်စာ** အမှတ် ၁၀၀၊ (၉)လမ်းသာယာလမ်း၊ (၆) ရပ်ကွက်၊ ပြင်ဦးလွင်မြို့နယ်၊ ပြင်ဦးလွင်

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Axiom Mandalay Highway Construction Company Limited (အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** BOT စနစ်ဖြင့် မန္တလေး-ပြင်ဦးလွင် လမ်းသစ် (၂၂) မိုင် ဖောက်လုပ်ခြင်းနှင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီး မြို့နယ်မှ ပြင်ဦးလွင် (အနီးစခန်း) မြို့နယ်အထိ ၂၂ မိုင်

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၃၉၅၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၀.၃၈ သန်းခန့် အပါအဝင် စုစုပေါင်းကျပ် သုံးထောင့် ကိုးရာ ငါးဆယ်သန်းတိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၃ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

၂၆/၃

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၇၄ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ် လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်မှ ပြင်ဦးလွင် (အနီးစခန်း)မြို့နယ်အထိ ၂၂ မိုင် ရှိ မန္တလေး-ပြင်ဦးလွင် လမ်းသစ်အပိုင်းအား BOT စနစ်ဖြင့် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တစ်ဆင့်မှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ "မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်မှ ပြင်ဦးလွင် (အနီးစခန်း)မြို့နယ်အထိ ၂၂ မိုင်ရှိ လမ်းသစ်အပိုင်းအား BOT စနစ်ဖြင့် လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုကြောင်း"ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) မှ BOT စနစ်ဖြင့် လမ်းတံတား ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၈၀/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသော အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်** ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်မှ ပြင်ဦးလွင် (အနီးစခန်း) မြို့နယ်အထိ ၂၂ မိုင်ရှိ လမ်းသစ်အပိုင်းအား BOT စနစ်ဖြင့် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန နှင့် ချုပ်ဆိုမည့် နှစ်ဦးသဘောတူ ပဋိညာဉ်စာချုပ်ပါ (Build

Operate and Transfer)သတ်မှတ်ချက် စည်းမျဉ်းစည်းကမ်းများ အတိုင်းလိုက်နာ ဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မန္တလေး တိုင်းဒေသကြီးအစိုးရအဖွဲ့၊ လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန နှင့် Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)တို့ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်မှ ပြင်ဦးလွင်(အနီးစခန်း) မြို့နယ်အထိ ၂၂ မိုင် ရှိ လမ်းသစ်အပိုင်းအား BOT စနစ်ဖြင့် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်မှ ပြင်ဦးလွင်(အနီးစခန်း) မြို့နယ်အထိ ၂၂ မိုင် ရှိ လမ်းသစ်အပိုင်းအား BOT စနစ်ဖြင့် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းသက်တမ်းမှာ ကနဦး(၅၀)နှစ် နှင့် ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် (၁၀)နှစ် (၁)ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။ သက်တမ်းကို ရေတွက်ရာတွင် ပဋိညာဉ်စာချုပ် အပိုဒ် ၂ ပါ လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့် နေ့ရက် (သို့မဟုတ်) လုပ်ငန်းကာလ (၃)နှစ်ထက်စော၍ လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ရေးထိုးပေးသည့်နေ့ (Final Completion Date) ထိုနှစ်ရပ် အနက်စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည်။

၈။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)သည် ကောက်ခံရရှိသည့် လမ်းအသုံးပြုခမှ မန္တလေးတိုင်းဒေသကြီးအစိုးရသို့ အောက်ပါအတိုင်း ပေးသွင်းရမည်-

| | |
|---|---|
| (က)ပထမ ၅ နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (ခ) ၆နှစ်မြောက်မှ ၂၀ နှစ်မြောက်အထိ ၁၅ နှစ် | ၅% ပေးသွင်းရန် |
| (ဂ) ၂၁ နှစ်မြောက်မှ ၃၀ နှစ်မြောက်အထိ ၁၀ နှစ် | ၁၀% ပေးသွင်းရန် |
| (ဃ)၃၁ နှစ်မြောက်မှ ၄၀ နှစ်မြောက်အထိ ၁၀ နှစ် | ၁၅% ပေးသွင်းရန် |
| (င) ၄၁ နှစ်မြောက်မှ ၅၀ နှစ်မြောက်အထိ ၁၀ နှစ် | ၂၀% ပေးသွင်းရန် |
| (စ) ၅၁ နှစ်မြောက်မှစ၍ | ၂၅ % ပေးသွင်းရန် |

၉။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက် နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား

ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၁။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၂။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ဤကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၁၄။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၇။ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)သည် အဆိုပြုလမ်းပိုင်းတရားဝင် ဖွင့်လှစ်သည့်နေ့ရက် (စီးပွားဖြစ်စတင်ဆောင်ရွက် သည့်နေ့ရက်) ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၂၆/၂

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄/မ- ၁၅၄၅ /၂၀၁၆( ၄၉၀-မ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ တံတားဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

မန်နေးဂျင်းဒါရိုက်တာ ၊ Axiom Mandalay Company Limited (အေစီယွမ် မန္တလေး ဟိုင်းဝေး ဆောက်လုပ် ရေးကုမ္ပဏီလီမိတက်)

Axiom Mandalay Highway Construction Co., Ltd မှ မန္တလေး-ပြင်ဦးလွင်မြို့နယ် ဖြတ်လမ်းအသစ် ဖောက်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၇-၃-၂၀၁၆ | - | |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၀-၁၂-၂၀၁၅ | - | |
| | (ဂ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၂၀-၁၂-၂၀၁၅ | - | |
| ၃။ | PAT အစည်းအဝေး (၁၂/၂၀၁၆) သို့ တင်ပြခြင်း | ၂၁-၃-၂၀၁၅ | | |
| ၄။ | ကုမ္ပဏီမှအဆိုပြုလွှာ(၇)စုံ ပြင်ဆင်ပေးပို့ခြင်း | ၂၃-၃-၂၀၁၆ | | |
| ၅။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၁၁/၂၀၁၆ (၂၅-၃-၂၀၁၆) | | |
| ၆။ | **စုစုပေါင်းကြာမြင့်ရက်** | **(၈ )ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Axiom Mandalay Highway Construction Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ( Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - မန္တလေး-ပြင်ဦးလွင်မြို့နယ် ဖြတ်လမ်းအသစ် ဖောက်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - မန္တလေး (ပုသိမ်ကြီး) ပြင်ဦးလွင် (အနီးစခန်း) လမ်းပိုင်း (၂၂) မိုင် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၃၉၅၀၀၀ သန်း (US$ ၀.၃၇ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - ကနဦးနှစ်(၅၀)နှင့်နောက်ထပ်(၁၀)နှစ် (၁)ကြိမ် |
| အရင်းကြေကာလ | - (၂၅)နှစ် (၅)လ |
| IRR | - ၃.၇၅ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၈.၇၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | - |
| ၅ | ဝင်ငွေခွန် | ၁၇.၀၉ | ၅၉.၈၁ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၁၉.၈၀ |
| ၇ | လျှပ်စစ် | | ၅၂.၀၈ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၁၈၅ ဦး<br>ပြည်ပ ဝန်ထမ်း ၁၁ ဦး |
| | စုစုပေါင်း | ၃၈.၀၀ | ၁၃၂.၈၆ |
| | Cost : Benefit | ၁:၄ | |

## Axiom Mandalay Highway Construction Co., Ltd. ၏ BOTစနစ်ဖြင့် မန္တလေး- ပြင်ဦးလွင်လမ်း(သစ်)တက်လမ်း(၂၂)မိုင်အား လမ်းအသစ်ဖောက်လုပ်ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်း နှင့် စပ်လျဉ်းသည့်အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | Axiom Mandalay Highway Construction Co., Ltd. အေစီယွမ်မန္တလေး ဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးစိုင်းအောင်ကြီး(အဘ-ဦးသန်းဒန်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - | လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - | BOTစနစ်ဖြင့် မန္တလေး- ပြင်ဦးလွင်လမ်း(သစ်) တက်လမ်း(၂၂)မိုင်အား လမ်းအသစ်ဖောက်လုပ်ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်မှ ပြင်ဦးလွင် (အနီးစခန်း) မြို့နယ်အထိ ၂၂မိုင် |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- လုပ်သားခ<br>- တံတားတန်ဖိုး<br>- ကတ္တရာတန်ဖိုး | - | **ကျပ် ၃၉၅၀.၀၀ သန်း (US$ ၀.၃၈ သန်းခန့်အပါအဝင်)**<br>ကျပ် ၂၇၉၉.၃၁ သန်း<br>ကျပ် ၂၀၀.၆၉ သန်း<br>ကျပ် ၅၀၀.၀၀ သန်း<br>ကျပ် ၄၅၀.၀၀ သန်း(US$ ၀.၃၈ သန်းအပါအဝင်) |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - | ကနဦးနှစ်(၅၀)နှင့်နောက်ထပ်(၁၀)နှစ် (၂)ကြိမ် |
| ၈။ | တည်ဆောက်ရေးကာလ | - | ၃ နှစ် |
| ၉။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - | လမ်းပိုင်းအတွက် လမ်းအသုံးပြုခကို ပုသိမ်ကြီးမြို့နယ် အပိုင်းတွင် မိုင်တိုင်၂/၇ နှင့် ၃/၀ အကြားရှိ ရေတော် တိုးဂိတ်နှင့် ပြင်ဦးလွင်မြို့နယ်အပိုင်းတွင် မိုင်တိုင်၂၀/၀ နှင့် ၂၀/၁အကြား ရှိ တောင်ကျွန်း တိုးဂိတ်စခန်းရုံးမှ လမ်းအသုံးပြုခ ကောက်ခံမည် ဖြစ်ပါသည်။ |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>-<br>- | <br><br>ကျပ် ၈.၆၇ သန်း<br>ကျပ် ၂၂၂.၆၅ သန်း |
| ၁၁။ | အရင်းကြေကာလ | - | (၂၅)နှစ် (၅)လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - | ၃.၇၅ % |

| | | | |
|---|---|---|---|
| ၁၃။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း (တည်ဆောက်ရေးကာလ)<br>ပြည်တွင်း(လုပ်ငန်းဆောင်ရွက်သည့်ကာလ) | -<br>-<br>- | ၃၅၀ ဦး (နေ့စားဝန်ထမ်းတစ်နေ့လျှင်အနိမ့်ဆုံး ကျပ် ၅၀၀၀)<br>၁၉ ဦး<br>(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၁၁၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၄၂၀၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | BOT စာချုပ်ပါအဓိကအချက်များ | -<br>- | မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လမ်းပန်း ဆက်သွယ်ရေးဝန်ကြီးဌာန နှင့် Axiom Mandalay Highway Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ၂၃-၂-၂၀၁၆ ရက်နေ့တွင် ချုပ်ဆိုထားသည့် မန္တလေး-ပြင်ဦးလွင်လမ်းသစ် ဖောက်လုပ် ခြင်းလုပ်ငန်း၏ BOT စာချုပ်မူကြမ်းပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(က) လုပ်ငန်းအာမခံအနေဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၀.၁)ရာခိုင်နှုန်း နှင့် ညီမျှသောငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင် စည်းကမ်းချက်များ မပါရှိဘဲ ပြန်လည် ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ ထံပေးအပ်ရမည်။ [စာချုပ် အပိုဒ်- ၆]<br>(ခ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့် နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။ [စာချုပ် အပိုဒ်- ၅ (ဃ) ]<br>(ဂ) စတင်ကောက်ခံသည့် ပထမ(၅)နှစ် ကာလအတွက် လမ်း/တံတား အသုံးပြုခမှ လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူသို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါအတိုင်း လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူသို့ ပေးသွင်းရန်ဖြစ်သည်။ [စာချုပ်အပိုဒ် ၅-(တ) ]<br>(၁) ပထမ(၅)နှစ်အတွက် — ကင်းလွတ်ခွင့်ကာလ<br>(၂) (၆)နှစ်မြောက်မှ(၂၀)နှစ်မြောက်အထိ (၁၅)နှစ် — ၅%<br>(၃) (၂၁)နှစ်မြောက်မှ(၃၀)နှစ်မြောက်အထိ (၁၀)နှစ် — ၁၀%<br>(၄) (၃၁)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၁၀)နှစ် — ၁၅%<br>(၅) (၄၁)နှစ်မြောက်မှ(၅၀)နှစ်မြောက်အထိ (၁၀)နှစ် — ၂၀%<br>(၆) ၅၁ နှစ်မြောက်မှစ၍ — ၂၅% |

(ခ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့် နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။ [စာချုပ် အပိုဒ်- ၅ (ပ) ]

(ဂ) စတင်ကောက်ခံသည့် ပထမ(၅)နှစ်ကာလအတွက် လမ်း/တံတား အသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရန်ဖြစ်သည်[စာချုပ်အပိုဒ် ၅-(တ) ]

| | | |
|---|---|---|
| (၁) | ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၆)နှစ်မြောက်မှ(၂၀)နှစ် မြောက်အထိ (၁၅)နှစ် | ၅% |
| (၃) | (၂၁)နှစ်မြောက်မှ(၃၀)နှစ် မြောက်အထိ (၁၀)နှစ် | ၁၀% |
| (၄) | (၃၁)နှစ်မြောက်မှ(၄၀)နှစ် မြောက်အထိ (၁၀)နှစ် | ၁၅% |
| (၅) | (၄၁)နှစ်မြောက်မှ(၅၀)နှစ် မြောက်အထိ (၁၀)နှစ် | ၂၀% |
| (၆) | ၅၁ နှစ်မြောက်မှစ၍ | ၂၅% |

၇။ ယင်းအဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန နှင့် ဆောက်လုပ်ရေး ဝန်ကြီးဌာနတို့သို့** ၁၅-၃-၂၀၁၆ ရက်နေ့ပါစာများဖြင့် သဘောထားများ တောင်းခံထားပါသည်။

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ဝင်ငွေ | ကျပ် | ၂၂၂.၆၆ သန်း |
| (ခ) အသုံးစရိတ် | ကျပ် | ၁၉၆.၆၅ သန်း |
| (ဂ) အသားတင်အမြတ် | ကျပ် | ၂၆.၀၁ သန်း |

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆)နှစ်မြောက်တွင် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၈.၆၇ သန်း |
| (ခ) လမ်းဖြတ်သန်းခရငွေ | ကျပ် | ၃.၉၁ သန်း |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ(၂၅)နှစ်နှင့် (၅)လဖြစ်ပြီး အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၃.၇၅ % ဖြစ်ပါသည်။

၁၁။ ကျပ်ငွေအထောက်အထားအဖြစ် Axiom Mandalay Highway Co., Ltd. အမည်ဖြင့် CB Bank တွင် (၁၇-၂-၂၀၁၆)နေ့စွဲရှိ ငွေလက်ကျန်ကျပ် ၉၅၁၉၅၁၇၁၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းအသစ် ဖြစ်ကြောင်း၊ နိုင်ငံတော်မှ လမ်းတံတားတည်ဆောက်ပြုပြင်ဖောက်လုပ်ခြင်းနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများ ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ လမ်းမကြီးများဆိုင်ရာ ဥပဒေနှင့် နည်းဥပဒေများကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ နှစ်စဉ်အသားတင်အမြတ်၏ ၂ % အား Corporate Social Responsibility (CSR) လုပ်ငန်းတွင် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ (က၊ ဂ ၊ စ ၊ ဆ ၊ ဇ ၊ ည)အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားလာပါက ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ (က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးထားသော BOT စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း (၆၄)ခု ရှိပါသည်။

(ခ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန နှင့် Axiom Mandalay Highway Co., Ltd. တို့သည် မန္တလေး-ပြင်ဦးလွင်လမ်းသစ် ဖောက်လုပ်ခြင်းလုပ်ငန်းအတွက် BOT စာချုပ်အား ၂၃-၂-၂၀၁၆ ရက်နေ့တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုပြီး ဖြစ်ပါသည်။

(ဂ) ယင်းအဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန နှင့် ဆောက်လုပ်ရေး ဝန်ကြီးဌာန တို့သို့** ၁၅-၃-၂၀၁၆ ရက်နေ့ပါစာများဖြင့် သဘောထားများ တောင်းခံထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ သို့ဖြစ်ပါ၍ Axiom Mandalay Highway Construction Co., Ltd. မှ BOTစနစ်ဖြင့် မန္တလေး-ပြင်ဦးလွင်လမ်း(သစ်)တက်လမ်း(၂၂)မိုင်အား လမ်းအသစ်ဖောက်လုပ်ခြင်းနှင့် လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

ကန့်သတ်

# Axiom Mandalay Highway Construction Co.,Ltd




## မန္တလေး – မြင်ဦးလွှင်
## မြတ်လမ်းအသစ်ဖောက်လုပ်ခြင်းလုပ်ငန်းအတွက်

# အဆိုပြုလွှာ တင်ပြချက်

၂၀၁၆ ခုနှစ်၊ မတ်လ (     ) ရက်




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

### မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ -၅ / ၂၂ ဦး၆ ( ၀၆၇ )

ရက် စွဲ ၊ ၂၀၁၆ခုနှစ် ၊ ဖေဖော်ဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **BOT ပဋိညာဉ်စာချုပ် ချုပ်ဆိုပြီးစီးမှု အကြောင်းကြားခြင်း**

၁။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် အေစီယွမ်မန္တလေးဟိုက်ဝေးကုမ္ပဏီလီမိတက်တို့မှ မန္တလေး-ပြင်ဦးလွင် လမ်းသစ်ဖောက်လုပ်ရေးလုပ်ငန်းအတွက် နှစ်ဦးသဘောတူ BOT ပဋိညာဉ်စာချုပ် ချုပ်ဆိုရန် စာချုပ်မူကြမ်းအား မန္တလေးတိုင်းဒေသကြီး ဥပဒေချုပ်ရုံးသို့ပေးပို့ခဲ့ပြီး ၊ တိုင်းဒေသကြီး ဥပဒေချုပ်ရုံးမှ တဆင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ စာချုပ်ပါအချက်များအား စိစစ်အတည်ပြုပေးရန် ပေးပို့ခဲ့ရာ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြုချက်များ၊ ပြုပြင်ရန် အချက်များနှင့် ထပ်မံထည့်သွင်းရန်လိုအပ်သည့်အချက်များ ဖော်ပြလျှက် စာချုပ်မူကြမ်းအပေါ် သဘောထား ပြန်ကြားခဲ့ပါသည်။

၂။ မန္တလေးတိုင်းဒေသကြီးနယ်မြေအတွင်း လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးအတွက် လမ်းပိုင်းသစ် ဖောက်လုပ်ခြင်းလုပ်ငန်းအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် အေစီယွမ်မန္တလေးဟိုက်ဝေး ကုမ္ပဏီလီမိတက်တို့ နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ်ရေးထိုး၍ လမ်းသစ်အား လမ်းဦးစီးဌာန၏ သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ မြေတိုင်းတာဖောက်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ပြီးစီးပါက ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ လမ်းပိုင်းအား လွှဲပြောင်းပြီး BOT လုပ်ပိုင်ခွင့်ရရှိရေး ဆောင်ရွက် နိုင်ရန် ကုမ္ပဏီအနေဖြင့် တင်ပြလျှောက်ထားရာ၌ လိုအပ်သည့်အချက်(၂၁)ချက်အားလည်း ဆောက် လုပ်ရေးဝန်ကြီးဌာနသို့ စုစည်းပြုစုပေးပို့ပြီးဖြစ်ပါသည်။

၃။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သည် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်အတိုင်း စာချုပ်မူကြမ်းအားပြင်ဆင်၍ မန္တလေး-ပြင်ဦးလွင် လမ်းပိုင်းသစ်ဖောက်လုပ်ခြင်းလုပ်ငန်း အတွက် ( ၂၃ -၂ -၂၀၁၆ )ရက်နေ့၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး အစည်းအဝေးခန်းမ၌ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် အေစီယွမ်မန္တလေးဟိုက်ဝေးကုမ္ပဏီလီမိတက်တို့ နှစ်ဦးနှစ်ဖက်

BOT ပဋိညာဉ်စာချုပ် သဘောတူလက်မှတ်ရေးထိုး ချုပ်ဆိုခဲ့ပါကြောင်း သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

25/2/2016

**ဝန်ကြီးချုပ်( )**
**(ကျော်ဆန်း ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး)**

မိတ္တူကို

ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ နေပြည်တော်၊
AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD
လှည့်လည်စာတွဲ၊
ရုံးလက်ခံ။





# မန္တလေးတိုင်းဒေသကြီးအစိုးရ
# လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
# မန္တလေးမြို့




စာအမှတ်။ ၁၈/ ၂၀၀၀(၁၃) / လမ်းဦးစီး / ၂၀၁၅(၃၄၀)

ရက် စွဲ ။ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ( ၉ ) ရက်

မန်နေးဂျင်းဒါရိုက်တာ

Axiom Mandalay High Construction Co.,Ltd

အကြောင်းအရာ။ **မန္တလေး-ပြင်ဦးလွင်လမ်း (သစ်) တက်လမ်းထပ်မံဖောက်လုပ်ရေးကိစ္စ**

ရည် ညွှန်း ချက်။

(၁) လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၏(၂၄-၆-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၁၉/၁၂၄၀(၁)/ လမ်းဦးစီး/၂၀၁၅(၃၁၃)

(၂) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ (၂၆-၆-၂၀၁၅)ရက်စွဲပါစာအမှတ်၊၁/၁-၁/၂ ဦး ၆ (၁၇၄၁)

(၃) ဆောက်လုပ်ရေးဝန်ကြီးဌာန၊ဝန်ကြီးရုံး၏(၂၂. ၆. ၂၀၁၅)ရက်စွဲပါစာအမှတ်၊၁၅/ ဌာနခွဲ-န/မန္တလေး/၂၀၁၅(စီ - ၉၆၈)

၁။ ရည်ညွှန်း(၁)ပါစာဖြင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာနမှ Axiom Mandalay High Construction Co.,Ltdဆောင်ရွက်မည့် မန္တလေး - ပြင်ဦးလွင်လမ်း (သစ်)အတက်လမ်းဖောက်လုပ်ခွင့် ရရှိရေးလျာထား လမ်းအူကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်မှုင့်ပြုရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြခဲ့ပါသည်။

၂။ ရည်ညွှန်း (၂)ပါစာဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ မန္တလေး - ပြင်ဦးလွင်လမ်း (သစ်)တက်လမ်းဖောက်လုပ်ခွင့်ရရှိရေး လျာထားလမ်းအူကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်ခွင့်အား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၈/၂၀၁၅)မှ သဘောတူကြောင်းဆုံးဖြတ်ချက် ပေးပို့ခဲ့ပါသည်။

၃။ ရည်ညွှန်း(၃)ဖြင့်လည်း ပြည်ထောင်စုဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ နေပြည်တော်မှလည်း အဆိုပါလမ်းဖောက်လုပ်ရေးအတွက် ကန့်ကွက်ရန်မရှိပါကြောင်း၊ လမ်းဒီဇိုင်းပုံစံအား ဆောက်လုပ်ရေးဝန်ကြီးဌာနသို့လည်း လုပ်ငန်းအပ်နှံဆောင်ရွက်နိုင်ကြောင်းနှင့် BOT စနစ်ဆောင်ရွက်လိုပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်သွားရန် အကြောင်းကြားစာရရှိပြီးဖြစ်ပါသည်။

၄။ သို့ပါ၍ မန္တလေး - ပြင်ဦးလွင်လမ်း (သစ်)အတက်လမ်းဖောက်လုပ်မည့် အစီအစဉ်အား Axiom Mandalay High Construction Co.,Ltdမှ ရေးဆွဲတင်ပြပြီး လုပ်ငန်းစတင်ဆောင်ရွက်မည့်အစီအစဉ်အား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြပေးနိုင်ပါရန်နှင့် BOT လမ်းပိုင်းအဖြစ်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းနှင့်အညီ တင်ပြလျှောက်ထားရေး တစ်ပါတည်းဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ပူးတွဲ - (၄) ရွက်

1/2 2016

(ကျော်ဆန်း)

တိုင်းဒေသကြီးဝန်ကြီး

မိတ္တူ

- ~~ပြည်ထောင်စုဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ နေပြည်တော်~~
- မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ နေပြည်တော်
- ညွှန်ကြားရေးမှူး၊ လမ်းဦးစီးဌာန(မြို့ပြ)၊ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့
- လှည့်လည်စာတွဲ
- ရုံးလက်ခံ

(6-7)New2015

ဌာနခွဲ(စု၊ရ)၊ဌာနစု(ဌာ၊မိ၊ရှ)
စာအမှတ် ၁၁၂၉
ရက်စွဲ၊ ၁-၇-၂၀၁၅ အချိန် ၁၁း၅၀



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁၅/ဌာနခွဲ-၃/(မန္တလေး)/၂၀၁၅(စီ ၉၆၈)
ရက် စွဲ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၂၂ ရက်

သို့

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ မန္တလေး-ပြင်ဦးလွင် လမ်း(သစ်)တက်လမ်း ထပ်မံဖောက်လုပ်ရေးကိစ္စ

ရည် ညွှန်း ချက် ။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ် မေလ (၂၆) ရက်စွဲပါ စာအမှတ်၊ ၂/၃-၅/၂၂ ဦး၆ (၀၈၄)

၁။ Axiom Mandalay High Construction Co.,Ltd မှ မန္တလေး-ပြင်ဦးလွင် လမ်းပိုင်းသစ်အား လမ်းအူကြောင်းဖော်ပြလျက် မြေတိုင်းတာခွင့် နှင့် B.O.T လမ်းပိုင်းအဖြစ် ဆောင်ရွက်ခွင့်ပြုပါရန် နှင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Axiom Mandalay High Construction Co.,Ltd မှ မန္တလေး-ပြင်ဦးလွင် လမ်းပိုင်းသစ်အား လမ်းအူကြောင်းဖော်ပြလျက် မြေတိုင်းတာခွင့် နှင့် B.O.T လမ်းပိုင်းအဖြစ် ဆောင်ရွက်လိုကြောင်း တင်ပြချက်နှင့်ပတ်သက်၍ ဆောက်လုပ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း နှင့် လမ်းဒီဇိုင်းပုံစံအား ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ လုပ်ငန်းအပ်နှံ ဆောင်ရွက်နိုင်ပါကြောင်း နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်လိုပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်သွားရမည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကျော်လင်း၊အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။
- ညွှန်ကြားရေးမှူး(မြို့ပြ)၊ လမ်းဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး။



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ဆောက်လုပ်ရေးဝန်ကြီးဌာန
## လမ်းဦးစီးဌာန

စာအမှတ်၊ စကဖ/မန္တလေး/AMH/၂၀၁၅-၁၆/၂၂၇
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ (၁၈) ရက်

အကြောင်းအရာ။ **မန္တလေး-ပြင်ဦးလွင် (သစ်) တက်လမ်းထပ်မံ ဖောက်လုပ်ရေးကိစ္စ**

ရည် ညွှန်း ချက် ။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၂၆.၅.၂၀၁၅) နေ့စွဲပါစာအမှတ်၊ ၂/၃-၅/၂၂ဦး ၆ (၀၈၄)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ Axiom Mandalay Highway Construction Co.,Ltd မှ မန္တလေး-ပြင်ဦးလွင်လမ်းပိုင်းသစ်အား လမ်းအူကြောင်း ဖော်ပြလျက် မြေတိုင်းတာခွင့်နှင့် B.O.T လမ်းပိုင်းအဖြစ် ဆောင်ရွက်လိုကြောင်း တင်ပြချက်အရ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ လမ်းအူကြောင်းအတွက် ကုမ္ပဏီမှ အပ်နှံမည့်လမ်းပုံစံဒီဇိုင်းများ အသေးစိတ်တိုင်းတာပုံထုတ်ရေးလုပ်ငန်းအား သဘောတူ လက်ခံပေးနိုင်ပါရန်နှင့် လမ်းသစ်ဖောက်လုပ်ခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းလာခြင်းအပေါ် ပြည်ထောင်စုဝန်ကြီးမှ **"(Survey) လုပ်ခွင့်ပြုရန်နှင့် (Design)ရက လုပ်ထုံးလုပ်နည်းနှင့် အညီ B.O.T နည်းလမ်းအတိုင်း ဆောင်ရွက်ပါရန်"** ဟု လမ်းညွှန်မှု ပြုထားပါသည်။

၂။ သို့ဖြစ်ပါ၍ လမ်းညွှန်ချက်အား သိရှိနိုင်ရန်နှင့် လိုအပ်သလိုဆက်လက်ဆောင်ရွက်သွားနိုင်ရန် အကြောင်းကြားပါသည်။

(ဝင်းဖေ) ၁၈-၆-၁၅
ညွှန်ကြားရေးမှူးချုပ်
လမ်းဦးစီးဌာန

၁။ ညွှန်ကြားရေးမှူး (မြို့ပြ)
မန္တလေးတိုင်းဒေသကြီး၊ လမ်းဦးစီးဌာန

၂။ ဥက္ကဋ္ဌ
Axiom Mandalay Highway Construction Co.,Ltd

မိတ္တူကို -
- ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ် (ရုံး)၊ လမ်းဦးစီးဌာန
- ဒုတိယညွှန်ကြားရေးမှူးချုပ် (လမ်းထိန်းသိမ်းရေး)၊ လမ်းဦးစီးဌာန
- အင်ဂျင်နီယာချုပ် (မြို့ပြ)၊ လမ်းဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

၆၀၃
၂၉.၅.၂၀၁၅

စာအမှတ်။ ၂/ ၃-၅ /၂၂ ဦး ၆ (၀၈၄)
ရက်စွဲ ။ ၂၀၁၅ ခုနှစ်၊ မေလ (၂၆) ရက်



သို့
ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ မန္တလေး - ပြင်ဦးလွင် လမ်း(သစ်)တက်လမ်း ထပ်မံဖောက်လုပ်ရေးကိစ္စ

ရည်ညွှန်းချက် ။ (၁) Axiom Mandalay High Way Construction Co.,Ltd၏ (၂၃. ၂. ၂၀၁၄)ရက်စွဲပါစာအမှတ်၊၀၀၉/အေစီယွန်-၂/၂၀၁၅

(၂) AK Construction & Industry Co.,Ltd ကုမ္ပဏီ၏ (၂၉. ၇. ၂၀၁၄) ရက်စွဲပါစာအမှတ်၊၀၇-အေကေ၊၁၁/၂၀၁၄

(၃) Axiom Mandalay High Way Construction Co.,Ltd ကုမ္ပဏီ၏ (၂၂. ၁. ၂၀၁၅) ရက်စွဲပါစာ

၁။ ရည်ညွှန်း(၁)နှင့်(၂)တို့ဖြင့် Axiom Mandalay High Way Construction Co.,Ltdမှ မန္တလေး-ပြင်ဦးလွင်လမ်းပိုင်းသစ်တစ်ခုအား လမ်းအူကြောင်းဖော်ပြလျှက် မြေတိုင်းတာခွင့်နှင့်BOT လမ်းပိုင်းအဖြစ် အသုံးပြုခွင့်အတွက် ခွင့်ပြုပေးရန် ဝန်ကြီးချုပ်ထံသို့ တင်ပြခဲ့ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် အသေးစိတ်တိုင်းတာပြီး၊ဆောင်ရွက်ရမည့်လုပ်ငန်းများအား အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည်ဖြစ်ပါကြောင်းနှင့်မန္တလေးအနီးစခန်း(၂၀)မိုင်အား စတင်ဖောက်လုပ်ခွင့်တောင်းခံခဲ့ပါသည် -

| စဉ် | လုပ်ငန်း | အရေအတွက် ခရီးမိုင် | ဆောင်ရွက်ရမည့်လုပ်ငန်း |
|---|---|---|---|
| (က) | လမ်းအူကြောင်း | (၂၀) မိုင် | -မန္တလေးမြို့(၁၉ × ၆၈)လမ်းမှအနီးစခန်း |
| (ခ) | တံတားပေါင်း | (၁၀)လုံး | - (၁၀၀ပေ × ၇ လုံး) |
| | | | - (၁၅ပေ × ၂ လုံး) |
| | | | - (၁၈၀ပေ × ၂ လုံး) |
| (ဂ) | တောင်အမြင့်ဆုံး | (၂)လုံး | - (၂၀၀ပေ) |
| (ဃ) | ဆင်ခြေလျှောတောင် အမြင့် | (၁၀)လုံး | - (၃၀၀ပေ မှ ၅၀၀ပေ) |
| (င) | ရေနံပိုက်လိုင်း | | - (၁)ကြိမ်ဖြတ် |

ဖု၁၀/(၁၁)

၈၆၈.
၂၉.၅.၁၅

(4.5)2015

၃။ အဆိုကုမ္ပဏီအနေဖြင့် လက်ရှိကုမ္ပဏီ၏မြေတိုင်းအဖွဲ့ဖြင့် မြေတိုင်းတာခြင်းအား ဆောင်ရွက်ပြီးတင်ပြခြင်း ဖြစ်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့မှထိုလမ်းသစ်ဖောက်လုပ်ရန် သဘောတူခွင့်ပြုပါက အဆိုပါလမ်းအူကြောင်းအတွက် ပုံစံထုတ်လုပ်တိုင်းတာရန် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ အပ်နှံ၍ ဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၄။ ထိုလမ်းကြောင်းသစ်ဖောက်လုပ်နိုင်ပါက နယ်မြေလူထုအား အောက်အကျိုးကျေးဇူးများ ရရှိနိုင်မည်ဟု သုံးသပ်ရရှိပါသည် -

(က) လက်ရှိမူလလမ်းထက် (၂၀)မိုင်ခန့် လျော့နည်းစေ၍ ခရီးတိုပြီးအချိန်ကုန်/ဆီကုန်သက်သာနိုင်စေခြင်း၊

(ခ) ဒေသခံပြည်သူများ စီးပွားရေးဖွံ့ဖြိုးတိုးတက်နိုင်ခြင်း၊

(ဂ) ဒေသထွက်ကုန်များ မန္တလေးသို့အချိန်တိုအတွင်း သယ်/ပို့ပေးနိုင်ခြင်း၊

(ဃ) တောင်ကုန်းပေါ်မှ မန္တလေးမြို့၏သာယာလှပမှုအား ကြည့်ရှုနိုင်ပြီး၊အပန်းဖြေအနားယူနိုင်သည့် စခန်းများပေါ်ထွက်လာနိုင်ခြင်း။

၅။ သို့ပါ၍ မန္တလေးဒေသကြီးအစိုးရအဖွဲ့အနေဖြင့်လည်း အစိုးရအသစ်ကာလအတွင်း လမ်းဖောက်လုပ်ရေးအား စတင်အကောင်အထည်ဖော်ဆောင်ရွက်ရန် ဆန္ဒရှိပါသဖြင့် အဆိုပါလမ်းအူကြောင်းအတွက် ကုမ္ပဏီမှအပ်နှံမည့် လမ်းပုံစံဒီဇိုင်းများ အသေးစိတ်တိုင်းတာပုံထုတ်လုပ်ရေးလုပ်ငန်းအား သဘောတူလက်ခံပေးနိုင်ပါရန်နှင့်လမ်းသစ် ဖောက်လုပ်ခြင်းလုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြု ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအပ်ပါသည်။

ပူးတွဲ - (၈) ရွက်

၁၈-၈-၂၀၁၆

ဝန်ကြီးချုပ်(ကိုယ်စား)၊
(ကျော်ဆန်း၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး)

မိတ္တူ

- ညွှန်ကြားရေးမှူးချုပ်၊ လမ်းတံတားဦးစီးဌာန၊ နေပြည်တော်
- ညွှန်ကြားရေးမှူး၊ လမ်းဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး၊မန္တလေးမြို့
- လုံခြုံလည်စာတွဲ
- ရုံးလက်ခံ

(4.5)2015




**AXIOM MANDALAY HIGHWAY CONSTRUCTION CO., LT**

No.652,78th Street, Between 37 & 38 Street, Mandalay.
Tel : 02- 72637 Fax : 02- 72633
E-mail : axiommdy@gmail.com




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၀၀၂- Axiom လမ်း/တံတား ၂၀၁၅-၁၆
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၃)ရက်။

အကြောင်းအရာ။ ။ **မန္တလေး-ပြင်ဦးလွင် ဖြတ်လမ်း လမ်းသစ်ဖောက်လုပ်ခြင်းအဆိုပြုချက်တင်ပြခြင်း။**

၁။ Axiom Mandalay Highway Construction Co.,Ltd သည် မန္တလေး (ပုသိပ်ကြီးမြို့နယ်) နှင့် ပြင်ဦးလွင်မြို့နယ် (အနီးစခန်း) သို့ ဖြတ်လမ်း လမ်းသစ် (၂၂)မိုင် အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ (B.O.T) စနစ် ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြအပ်ပါသည်။

၂။ အဆိုပြုလမ်းသစ်စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အဆိုပြုတင်ပြချက်ပါအတိုင်း ငွေကျပ်သိန်း(၃၅၀၀၀) ဖြစ်ပါသည်။

၃။ အဆိုပြုလမ်းစီမံကိန်းတွင် (၂၄)ပေ အကျယ်၊ နှစ်လမ်းသွားဖောက်လုပ်မည်ဖြစ်ပြီး စီမံကိန်း၏ တည်ဆောက်ရေးကာလမှာ (၃)နှစ်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုကာလကို နှစ်(၅၀) အထိ လုပ်ကိုင်ခွင့်ပြုပါရန်နှင့် သက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် နှစ်ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ပြုပါရန် အဆိုပြုတင်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ မန္တလေး-ပြင်ဦးလွင် ဖြတ်လမ်း လမ်းသစ် တည်ဆောက်ခြင်းစီမံကိန်းအဆိုပြုချက်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် နှင့် ဥပဒေအခန်း(၇) ၊အပိုဒ်(၁၂) နှင့် (၁၃)အပါ ပြဋ္ဌာန်းချက်များနှင့်အညီ အခွန်ကင်းလွတ်ခွင့် အခွန်ဆိုင်ရာသက်သာခွင့်များ ခွင့်ပြုပေးနိုင်ပါရန် အဆိုပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U SAI AUNG GYI
MANAGING DIRECTOR
AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD




**AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD**

No.652,78th Street, Between 37 & 38 Street, Mandalay.
Tel : 02- 72637 Fax : 02- 72633
E-mail : axiommdy@gmail.com




သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၀၀၃- Axiom လမ်း/တံတား ၂၀၁၅-၁၆
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၃)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်များ ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Axiom Mandalay Highway Construction Co.,Ltd အနေဖြင့် မန္တလေး (ပုသိမ်ကြီးမြို့နယ်) နှင့် ပြင်ဦးလွင်မြို့နယ် (အနီးစခန်း) လမ်းမိုင်အရှည် (၂၂)မိုင်ရှိ ဖြတ်လမ်းလမ်းသစ် ဖောက်လုပ်တည်ဆောက်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ခေတ်မီ နည်းပညာများ စက်ကိရိယာများ အသုံးပြုကာ ဆောင်ရွက်လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော် မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားခဲ့ပြီး လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိပါက အောက်ဖော်ပြပါအချက်များ လိုက်နာပါမည်ဟု ဝန်ခံကတိပြုပါသည်။

၁။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းလုပ်ဆောင်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

၂။ လမ်းတံတား တည်ဆောက်ဖောက်လုပ်ခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ သတ်မှတ် ပြဌာန်းထားသည် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

၃။ ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U SAI AUNG GYI
MANAGING DIRECTOR
AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD.




**AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD.**

No.652,78th Street, Between 37 & 38 Street, Mandalay.
Tel : 02- 72637 Fax : 02- 72633
E-mail : axiommdy@gmail.com

စာအမှတ်၊ ၀၀၅/AxiomBOT / လမ်း/တံတား / 2015-2016
ရက် စွဲ ။ ၂၀၁၆ ခုနှစ် ၊ မတ်လ ( ၁၈ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ **IEE ရေးဆွဲမည့် အစီအစဉ်တင်ပြခြင်း**

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD. သည် မန္တလေးတိုင်းဒေသကြီး (ပုသိမ်ကြီးမြို့နယ်)မှ ပြင်ဦးလွင်မြို့နယ် (အနီးစခန်း) ထိ လမ်းမိုင် ၂၂ မိုင်အား လမ်းသစ်ဖောက်လုပ်မည့် လုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

အဆိုပါ လမ်းတည်ဆောက်ရေးအတွက် INITIAL ENVIROMENTAL EXAMINATION (IEE) ရေးဆွဲသွားမည်ဖြစ်၍ ရေးဆွဲပြီးစီးပါက ကော်မရှင်သို့ ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U SAI AUNG GYI
MANAGING DIRECTOR
AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD.

မိတ္တူကို -
- ရုံးလက်ခံ

000178



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
# [ ဥပဒေ ပုဒ်မ–၂၊ ပုဒ်ခွဲ(ဂ)နှင့် ပုဒ်မ–၈ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ ၀၀၁–Axiomလမ်း/တံတား ၂၀၁၅–၁၆
ရက်စွဲ ။ ၂၀၁၆ ခုနှစ် ၊ မတ်လ (     )ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ **ရင်းနှီးမြှုပ်နှံလိုသူ၏–**

| | | |
|---|---|---|
| (က) | အမည် | ဦးစိုင်းအောင်ကြီး |
| (ခ) | အဖအမည် | ဦးသန်းဒန် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၃/ကမန(နိုင်)၀၀၀၄၃၅ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၁၀၀)၊ (၉)လမ်းသာယာမ်း၊ ရပ်ကွက်(၆)၊ ပြင်ဦးလွင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| (င) | လူမျိုး/ဘာသာ | ရှမ်း၊ မွန်/ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | ဆောက်လုပ်ရေးလုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၆၅၂)၊ ၇၈လမ်း၊ (၃၇)လမ်းနှင့်(၃၈)လမ်းကြား၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |

၂။ **ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူ၏ -**

(က) အမည် (၁) ------------------ (၂) ------------------
(၃) ------------------ (၄) ------------------
(၅) ------------------ (၆) ------------------

(ခ) အဖအမည် (၁) ------------------ (၂) ------------------
(၃) ------------------ (၄) ------------------
(၅) ------------------ (၆) ------------------

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁) ------------------ (၂) ------------------
(၃) ------------------ (၄) ------------------
(၅) ------------------ (၆) ------------------

(ဃ) နေရပ်လိပ်စာ (၁) ------------------ (၂) ------------------
(၃) ------------------ (၄) ------------------
(၅) ------------------ (၆) ------------------

(င) လူမျိုး၊ ဘာသာ (၁) ------------------ (၂) ------------------
(၃) ------------------ (၄) ------------------
(၅) ------------------ (၆) ------------------

(စ) အဖွဲ့အစည်းအမည် အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

(ဆ) လုပ်ငန်းအမျိုးအစား ဆောက်လုပ်ရေးလုပ်ငန်း

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် အမှတ်(၆၅၂)၊ (၇၈)လမ်း၊ (၃၇)လမ်းနှင့်(၃၈)လမ်းကြား၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -**

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း ------------------------------------

(ခ) ဝန်ဆောင်မှု လုပ်ငန်း မန္တလေး (ပုသိမ်ကြီးမြို့နယ်)နှင့် ပြင်ဦးလွင်မြို့နယ်(အနီးစခန်း) လမ်းသစ်ဖောက်လုပ်ခြင်း၊ (၂၂)မိုင်နှင့် လမ်း၊ တံတား အသုံးပြုခ ကောက်ခံသည့်လုပ်ငန်း။

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ –

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း
လီမိတက်ကုမ္ပဏီ **( နောက်ဆက်တွဲ – ၂ )**

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

---------------------------------------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့တွင် ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

---------------------------------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန် –

(က) တစ်ဦးတည်းပိုင် --------------------------------------

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း --------------------------------------

(ဂ) လီမိတက်ကုမ္ပဏီ Axiom Mandalay Highway Constuction Co.,Ltd
**( နောက်ဆက်တွဲ – ၂ )**

(ဃ) သမဝါယမအသင်း --------------------------------------

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက –

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ
10000 Ks x 5000 shares

(ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား **( နောက်ဆက်တွဲ – ၃ )**

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

---------------------------------------------------------------

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်။)

၇။ လီမိတက်ကုမ္ပဏီဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း ကျပ် ၅၀,၀၀၀,၀၀၀/- (ကျပ်သိန်းငါးရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား ကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်းတိတိ)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ကျပ် ၅၀,၀၀၀,၀၀၀/- (ကျပ်သိန်းငါးရာတိတိ)

၈။ ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ -

| (က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလုပ်ငန်း) | မြန်မာကျပ်ငွေ | နိုင်ငံခြားငွေ | စုစုပေါင်း (ကျပ်ထောင်ပေါင်း) |
|---|---|---|---|
| (၁) ငွေပမာဏ | | | |
| လမ်းသစ်ဖောက်လုပ်ခြင်း လုပ်ငန်းတန်ဖိုး နောက်ဆက်တွဲ(၄) | ၂,၇၉၉,၃၁၂,၀၀၀ | | ၂,၇၉၉,၃၁၂ |
| (၂) လုပ်သားကြီး၊ လုပ်သား နောက်ဆက်တွဲ(၄) | ၂၀၀,၆၈၈,၀၀၀ | | ၂၀၀,၆၈၈ |
| (၃) တံတားလုပ်ငန်းတန်ဖိုး နောက်ဆက်တွဲ(၄) | ၅၀၀,၀၀၀,၀၀၀ | | ၅၀၀,၀၀၀ |
| (၄) ကတ္တရာတန် (၁၀၀၀) | | ၃၇၅,၀၀၀ | ၄၅၀,၀၀၀ |
| | ၃,၅၀၀,၀၀၀,၀၀၀ | ၃၇၅,၀၀၀ | ၃,၉၅၀,၀၀၀ |

မှတ်ချက်

၁။ ကုမ္ပဏီပိုင် စက်ယန္တရားများဖြင့် ဆောင်ရွက်မည်ဖြစ်ပါ၍ ပြည်ပမှ စက်ယန္တရားများ တင်သွင်းခြင်း မပြုပါ။

၂။ ဖောက်လုပ်မည့် လမ်းတစ်လျောက် သစ်တော၊ ပုဂ္ဂလိကမြေများနှင့် မလွတ်ကင်းသည့် နေရာများအတွက် ကုမ္ပဏီအနေဖြင့် ပေးလျော်ရမည့် ငွေကြေးများအား ရင်းနှီးမြှုပ်နှံမှုအဖြစ် သီးခြားတင်ပြသွားမည် ဖြစ်ပါသည်။

(ခ) နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့်

(၁) စက်ပစ္စည်းကိရိယာများ -

(၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများတန်ဖိုး - US$ ၃၇၅၀၀၀

(၃) စုစုပေါင်း နိုင်ငံခြားငွေပမာဏ -

(ဂ) တည်ဆောက်မှုကာလ - (၃) နှစ်

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ -

(င) တည်ဆောက်မှုစတင်မည့်အချိန် - ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်အချိန်မှစတင်၍ တည်ဆောက်ပါမည်။

ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်း နှင့် သက်ဆိုင်သောအချက်အလက်များ -

| | | |
|---|---|---|
| (က) | လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည်ဖြင့် ဖော်ပြရန်) | B.O.T စနစ်ဖြင့် မန္တလေး - ပြင်ဦးလွင်လမ်းပိုင်း အသစ်ဖောက်လုပ်ခြင်းနှင့် လမ်းအသုံးပြုခကောက်ခံ ခြင်းလုပ်ငန်း |
| (ခ) | ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ | မန္တလေးတိုင်းဒေသကြီး<br>ပုသိမ်ကြီးမြို့နယ် မှ ပြင်ဦးလွင်မြို့နယ်ထိ ၂၂ မိုင် |
| (ဂ) | ဆောင်ရွက်ပုံနည်းစနစ် | B.O.T စနစ် |

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ဂါလံ (၁၀၆၀၈၂) |
| ၂။ | စက်ဆီချောဆီ | ဂါလံ (၂၀၀၇၇) |
| ၃။ | ........................ | .......................... |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ............................... |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ............................... |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | (၆၂၅) KVA မီးစက် |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | ............................... |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ............................... |

(စ) နှစ်စဉ်လိုအပ်ချက်

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)

| | | |
|---|---|---|
| ၁။ | တစ်နေ့ရေလိုအပ်ချက် | ဂါလံ (၁၂၀၀) |
| ၂။ | တစ်နှစ်ရေလိုအပ်ချက် | ဂါလံ (၄၅၀၀၀၀) |

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက် -

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | (၁)...................... | ...................... | ...................... | ...................... |
| | (၂)...................... | ...................... | ...................... | ...................... |
| ၂။ | အထောက်အကူ ကုန်ကြမ်း | | | |
| | (၁)...................... | ...................... | ...................... | ...................... |
| | (၂)...................... | ...................... | ...................... | ...................... |
| ၃။ | စက်သုံးဆီ/ဓာတ်ငွေ့များ - | | | |
| | (၁)...................... | ...................... | ...................... | ...................... |
| | (၂)...................... | ...................... | ...................... | ...................... |

(ဇ) အဆောက်အအုံလိုအပ်ချက် -

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် ..................................................

..................................................................................................................................

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

ဖြတ်သန်းသွားလာသည့်ကားများကို ဖြတ်သန်းခအဖြစ် B.O.T ပုံစံ ဖော်ပြထားသည့် နှုန်းထား

အတိုင်း မိုင် (၂၀) အတွက် (စာချုပ်အပိုဒ် -၇(ခ))

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | ယာဉ်အသေး | (စီး) | (၁) | (၁၀၀၀) ကျပ် |
| ၂။ | ယာဉ်အလတ် | (စီး) | (၁) | (၁၅၀၀) ကျပ် |

(ဋ) ရောင်းချမည့်နည်းစနစ် - လမ်းတံတားအသုံးပြုခများကို ကျပ်ငွေဖြင့် ကောက်ခံပါမည်။

(ဌ) တိုးဂိတ်နေရာ -

(၁) ပုသိမ်ကြီးမြို့နယ်အပိုင်း

(က) အမည် - ရေတော်တိုးဂိတ်

(ခ) မြေပုံညွှန်း - A725670

(ဂ) တည်နေရာ - မိုင်တိုင် ၂/၇ နှင့် ၃/၀ အကြား

(၂) ပြင်ဦးလွင်မြို့နယ်အပိုင်း-

(က)အမည် - တောင်ကျွန်းတိုးဂိတ်

(ခ)မြေပုံညွှန်း - ႘895642

(ဂ)တည်နေရာ - မိုင်တိုင် ၂၇/၇နှင့် ၂၇/၁ အကြား

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ -

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ............................ | ............................ |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | ............................ | ............................ |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | ............................ | ............................ |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | ............................ | ............................ |
| (င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | ............................ | ............................ |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းစာရင်း-

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ - **နောက်ဆက်တွဲ(၇)**

(ခ) နိုင်ငံခြားမှ လိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | | |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | **နောက်ဆက်တွဲ** | **(၈)** |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | **နောက်ဆက်တွဲ** | **(၉-က-င)** |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | **နောက်ဆက်တွဲ** | **(၉-က-င)** |
| (ဃ) ငွေသားစီးဆင်းမှုဇယား | **နောက်ဆက်တွဲ** | **(၁၀-က-င)** |
| (င) အရင်းကျေကာလ | **နောက်ဆက်တွဲ** | **(၁၁-က-ခ)** |
| (စ) နှစ်စဉ်တန်ဖိုးလျော့ဇယား | **နောက်ဆက်တွဲ** | **(၁၂)** |
| (ဆ) စီးပွားရေးတွက်ခြေကိုက်မှု | **နောက်ဆက်တွဲ** | **(၁၃)** |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြပါသည် -

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စအတွက်)

(ခ) လုပ်ငန်းနှင့် ငွေရေးကြေးရေးဆိုင်ရာ စာရင်းဇယားနှင့်အထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း

လေးစားစွာဖြင့်

U SAI AUNG GYI
MANAGING DIRECTOR
... MANDALAY HIGHWAY CONSTRUCTION CO.,LTD




**AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD.**

No.652,78th Street, Between 37 & 38 Street, Mandalay.
Tel : 02- 72637 Fax : 02- 72633
E-mail : axiommdy@gmail.com




Date.......................

| Sr No. | Name | Citizenship or N.R.C No, Passport | Designation | Address |
|---|---|---|---|---|
| 1 | U Sai Aung Gyi | 13/KaMaNa (Naing) 000435 (Myanmar) | Managing Director | No. (100-Za), LanTharYar Street, Ward No.(6), PyinOoLwin Township, Mandalay Region. |
| 2 | U Htet Aung Hlaing | 9/PaOuLa (Naing) 023851 (Myanmar) | Director | No. (S/38), Zizawar Garden Housing, Than Thu Mar Road, Ward No.(15), South OkkalapaTownship, Yangon Region. |
| 3 | U Than Naing Zaw | 9/PaOuLa (Naing) 029825 (Myanmar) | Director | No. (S/38), Zizawar Garden Housing, Than Thu Mar Road, Ward No.(15), South OkkalapaTownship, Yangon Region. |
| 4 | U Moe Myint Thar | 9/AhMaZa (Naing) 036890 (Myanmar) | Director | Block No.(192), ThiriMarlar East Quarter, AungMyayTharZan Town-ship, Mandalay Region. |
| 5 | Daw Su Pyae Thar | 9/AhMaZa (Naing) 036891 (Myanmar) | Director | Block No.(192), ThiriMarlar East Quarter, AungMyayTharZan Town-ship, Mandalay Region. |

အပေါ်မူတည်၍ တစ်ဆက်တည်းသက်တမ်းတိုးခွင့် (၁၀)နှစ်(၂)ကြိမ်တိုးမြှင့်ပေးနိုင်သည်”ဟုလည်းကောင်း ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍စာချုပ်(မူကြမ်း)ပါလုပ်ငန်းများကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက အဆိုပါဥပဒေနှင့်အညီဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။ သို့ပါ၍ စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းတို့အား ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဠ) စာချုပ်(မူကြမ်း)အပိုဒ် ၅ ၌ ဖော်ပြထားသော လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏တာဝန်များတွင် ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက် ကုန်ကျစရိတ်များကို မည်သူကကျခံဆောင်ရွက်ခြင်း ပြုလုပ်ရမည်ကို ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ ဌာနမှ ပြန်လည်စိစစ်ပြီး ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)အပိုဒ် ၆ အရ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကိုပြည်ထောင်စုမြန်မာနိုင်ငံတော်ငွေရေးကြေးရေးဆိုင်ရာအဖွဲ့အစည်းများဥပဒေနှင့် ဗဟိုဘဏ်ဥပဒေများအရဗဟိုဘဏ်မှ တရားဝင်ဘဏ်လုပ်ငန်းလုပ်ကိုင်ခွင့်ပြုချက်ရရှိထားပြီး တရားဝင်ဘဏ်လုပ်ငန်းလုပ်ကိုင်လျက်ရှိသည့် နိုင်ငံတော်ဘဏ် သို့မဟုတ် ဘဏ်တစ်ခုခု၌ထားရှိသင့်ပါသည်။ ဘဏ်အာမခံပုံစံမှာသက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသော ဘဏ်အာမခံပုံစံ ဖြစ်ရန်လိုအပ်ပြီး စာချုပ်(မူကြမ်း)ပါစည်းကမ်းချက်များနှင့်ညီညွတ်ရန်လိုအပ်ပါသည်။ထို့အပြင် အဆိုပါဘဏ်အာမခံပုံစံအား စာချုပ်တွင်နောက်ဆက်တွဲအဖြစ် ပူးတွဲဖော်ပြသင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းနှင့်စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနနှင့် ကုမ္ပဏီများအကြား ချုပ်ဆို

လေ့ရှိသော လမ်းအပိုင်းတို့အား BOT စနစ်ဖြင့် ဆောင်ရွက်သည့် ပဋိညာဉ်စာချုပ်များ၌ ဖော်ပြလေ့ရှိသည့် လမ်းတံတားအသုံးပြုခကောက်ခံနှုန်းများ၊ တံတားအသုံးပြုခကောက်ခံနှုန်း၊ ကင်းလွတ်ခွင့်ပြုမည့် ယာဉ်အမျိုးအစား၊ အထူးနှုန်းဖြင့် ကောက်ခံမည့်ယာဉ်အမျိုးအစား၊ မိုင်အရှည်၊ နေ့ရက်၊ အချိန်နှင့် ကာလ၊ လုပ်ငန်းတန်ဖိုး၊ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု၊ စစ်ဆေးခြင်း၊ ကန့်ကွက်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ ပျက်ကွက်မှုတို့ စသည့်စည်းကမ်းချက်တို့အား ထည့်သွင်းဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ ဌာနမှ ပြန်လည်စိစစ်ပြီး သတ်မှတ်ဖော်ပြရန် လိုအပ်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)အပိုဒ် ၁၈ ၌ ပဋိညာဉ်ကို ပြင်ဆင်ခြင်းနှင့် ရပ်စဲခြင်းတို့အား ရောထွေးစွာ ဖော်ပြထား၍ မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း) အပိုဒ် ၁၁ အနုညာတစီရင်ဆုံးဖြတ်ခြင်းနှင့်စပ်လျဉ်း၍ ၅-၁-၂၀၁၆ရက်နေ့၌ပြည်ထောင်စုလွှတ်တော်သည် ၂၀၁၆ ခုနှစ် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၅ ဖြင့် အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေကိုပြဋ္ဌာန်းခဲ့ပြီး ယင်းဥပဒေအသစ်၏ ပုဒ်မ ၅၉ ၌ "The Arbitration Act, 1944 ကို ဤဥပဒေဖြင့် ရုပ်သိမ်းလိုက်သည်"ဟု ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ အနုညာတစီရင်ဆုံးဖြတ်ခြင်းနှင့်စပ်လျဉ်း၍ စာချုပ်(မူကြမ်း)အပိုဒ် ၁၁ ၌ ရည်ညွှန်းထားသောဥပဒေသည် အာဏာသက်ရောက်မှုမရှိတော့ပါကြောင်း ပြန်ကြားအပ်ပါသည်။ သို့ပါ၍ အနုညာတစီရင်ဆုံးဖြတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ဖော်ပြသင့်ပါသည် -

"အနုညာတစီရင်ဆုံးဖြတ်ခြင်း / အငြင်းပွားမှုဖြေရှင်းခြင်း

ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။

ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို အနုညာတစီရင်ဆုံးဖြတ်ခြင်း ဥပဒေ -၂၀၁၆ အညီ ဖြေရှင်းဆောင်ရွက်ရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ -------- မြို့ဖြစ်စေရမည်။''

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ ၌ ပဋိညာဉ်ပြီးဆုံးခြင်းကို ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၁၆(ခ)၌ ပဋိညာဉ်စာချုပ်၏ သက်တမ်းကို ဖော်ပြထားပြီးဖြစ်ပါသည်။ ပဋိညာဉ်ပြီးဆုံးခြင်းကို ဖော်ပြခြင်းဖြင့် မလိုလားအပ်သော အငြင်းပွားမှုများပေါ်ပေါက်လာနိုင်သဖြင့် အပိုဒ် ၁၂ ပဋိညာဉ်ပြီးဆုံးခြင်းကို ဖော်ပြရန်မသင့်ပါ။ သို့ပါ၍ မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း)၌ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း စာပိုဒ်မပါရှိ၍ ဖော်ပြရန် လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစည်းကမ်းချက်တစ်ခုဖြစ်သော စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း စာပိုဒ်မပါရှိ၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသော စာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဓ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေး ရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၄။ အေစီယွမ်မန္တလေးဟိုက်ဝေးကုမ္ပဏီသည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၅။ ဤ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ကျော်ဆန်း)

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး

မိတ္တူ - လမ်းမန်းဆက်သွယ်ရေးဝန်ကြီးဌာန၊

မန္တလေးတိုင်းဒေသကြီးအစိုးရ။

- ရုံးလက်ခံ/ မျှောစာတွဲ

M-017/RDKZL/AGO Madalay Hite Wan Company (12-1-2016)

# မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
# လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန

နှင့်

# အေဝီယွန် မန္တလေးဟိုက်ဝေးကုမ္ပဏီလီမိတက်

တို့

# နှစ်ဦးသဘောတူ B.O.T ပဋိညာဉ်စာချုပ်

ရက်စွဲ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၃ ) ရက်

## မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန နှင့် အေစီယွန်မန္တလေးဟိုက်ဝေးကုမ္ပဏီတို့ နှစ်ဦးသဘောတူ B.O.T ပဋိညာဉ်စာချုပ်

**တည်ဆောက်ပြုပြင်သည့်ကာလ**

၁။ မန္တလေး-ပြင်ဦးလွင်ဖြတ်လမ်းအား (၃)နှစ်ဖြင့် အပြီးတည်ဆောက်ပါမည်။

**ဆောက်ရွက်ရမည့်လုပ်ငန်းများ**

၂။ ဤစီမံကိန်းလုပ်ငန်းလမ်းမကြီး ဖောက်လုပ်တည်ဆောက်ရာတွင် ဆောင်ရွက်ရမည့်လုပ်ငန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) လမ်းနယ်နိမိတ်အတွင်း သစ်ပင်များခုတ်လှဲခြင်း၊ သစ်ငုတ်များဖယ်ရှားခြင်း၊ ရှင်းလင်းခြင်း လုပ်ငန်း။

(ခ) လမ်းကြောင်းမြေတူးဖော်ခြင်းလုပ်ငန်း။

(ဂ) လမ်းကြောင်းမြေဖို့ရန် အခြားနေရာများမှ မြေတူးခြင်းလုပ်ငန်း။

(ဃ) လမ်းမြေသားတာဘောင်ဖို့ခြင်းလုပ်ငန်း။

(င) ဒု-အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း။

(စ) အခြေခံလွှာတည်ဆောက်ခြင်းလုပ်ငန်း။

(ဆ) လမ်းမျက်နှာပြင်ညှိလွှာ (Regulating Course) တည်ဆောက်ခြင်းလုပ်ငန်း။

(ဇ) ကတ္တရာဖြင့် (Penetration Macadam) လုပ်ငန်း။

(ဈ) ကတ္တရာရေပိတ်လွှာတစ်ထပ်လောင်းခြင်းလုပ်ငန်း။

(ည) လမ်းပခုံးများတည်ဆောက်ခြင်း၊ လမ်းဘေး ဝဲ/ယာ ရေနုတ်မြောင်းတူးဖော်ခြင်းလုပ်ငန်း၊ နိမ့်သောမြေသားမျက်နှာပြင်များ ပြုပြင်ခြင်းလုပ်ငန်း။(ပူးတွဲ)

(ဋ) လမ်းသားနှင့် ဝဲ/ယာရေနုတ်မြောင်းများတည်ဆောက်ခြင်း။

(ဌ) လမ်းအကွာအဝေးပြမိုင်တိုင်များ စိုက်ထူခြင်လုပ်ငန်း ၊ လမ်းအမှတ်သားပြတိုင်များ စိုက်ထူခြင်းလုပ်ငန်း၊ အဆင့်မီလမ်း-တံတားအသုံးပြုခကောက်ခံရန်ဂိတ်များ၊ ကောက်ခံသည့် ရုံးများ၊ ထိန်းချုပ်ရေးနှင့်ဆက်သွယ်ရေးစခန်းများ၊ ယာဉ်ရပ်များစခန်းများ၊ လမ်းကူးလမ်းစပ်များ၊ နားခိုရန်နေရာများ၊ အပန်းဖြေစခန်းများနှင့် ကြော်ငြာဆိုင်းဘုတ်များ စိုက်ထူရန်အတွက် ပုံစံပြုရန်နှင့် တည်ဆောက်ရန်၊ အိမ်ယာစီမံကိန်းများနှင့် ဟိုတယ်၊ ဓါတ်ဆီဆိုင်များ၊ မြို့ရှောင်လမ်းများ ဖောက်လုပ်ပေးရန်။

(ဍ) စီမံကိန်းလုပ်ငန်းလမ်းမကြီးနှင့် ဆက်သွယ်သည့် လမ်းများဖောက်လုပ်ခြင်း။

**စံချိန်စံညွှန်းများ**

၃။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ သတ်မှတ်ထားသည့် နောက်ဆက်တွဲ (က)ပါ နည်းပညာဆိုင်ရာ စံချိန်စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများဆောင်ရွက်ရာတွင် သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန် မဖြစ်နိုင်ပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။




(က) **လမ်းမြေသားတာဘောင်ဖို့ခြင်း။** လမ်းမြေသားတာဘောင်ဖို့ခြင်းဆောင်ရွက် ရာတွင် မြေသားအတွင်း သစ်ပင်သစ်ဆွေးများ ၊ ကျန်းမာရေးထိခိုက်စေနိုင်သည့် ပစ္စည်းများ မပါဝင်ရန် သတိပြုဆောင်ရွက်ရမည်။ သတ်မှတ်ထားသည့် အမြင့်နှင့် လမ်းသားပုံရရှိစေရန် ဆောင်ရွက်ပေးရမည်။ မြေသားသိပ်သည်းမှုသည် သတ်မှတ်ချက်၏ (၉၀) ရာခိုင်နှုန်းထက် မနည်းစေရ။

(ခ) **အောက်ခံမြေ။** အောက်ခံမြေသားမှာ လမ်းသားအလွှာအောက်ရှိ တူးထုတ်ထားသော (သို့မဟုတ်) ဖို့ထားသော မြေသားအလွှာဖြစ်ပါသည်။ အောက်ခံမြေသားကို သတ်မှတ်ရွေးချယ်ထားသော မြေသားဖြင့် သတ်မှတ်သိပ်သည်းမှုရရှိအောင် ကြိတ်ထားသည့် အနည်းဆုံး (၁၂) လက်မအထူရှိသည့် မြေသားအလွှာဖြစ်ပါသည်။ သိပ်သည်းမှုမှာ သတ်မှတ်သိပ်သည်းမှု၏ (၉၅)ရာခိုင်နှုန်း (သို့မဟုတ်) ၎င်းအထက်ရှိရမည်။ စီ-ဘီ-အာ (ရေစိမ်) တန်ဖိုးသည် (၅)ရာခိုင်နှုန်းထက်မနည်းရှိရမည်။

(ဂ) **ဒု-အခြေခံလွှာ။** ဒု-အခြေခံလွှာမှာ ခဲကျောက် (၂″×၄″) အား (၄)လက်မထူ သိပ်သည်းအောင် ကြိတ်ထားသော အလွှာကို ခေါ်ဆိုပါသည်။ သတ်မှတ်သိပ်သည်းမှုမှာ (၉၅)ရာခိုင်နှုန်းရှိရမည်ဖြစ်ပြီး စီ-ဘီ-အာ (ရေစိမ်) တန်ဖိုးသည် (၃၀)ရာခိုင်နှုန်း (သို့မဟုတ်) ၎င်းအထက်ရှိရမည်။

(ဃ) **အခြေခံလွှာ။** ဒု-အခြေခံလွှာနှင့် အပေါ်မျက်နှာပြင်အကြားရှိ ခဲကျောက်တို့ကို (၆)လက်မထု သိပ်သည်းလွှာရရှိအောင် ဆောင်ရွက်ရမည့်အလွှာဖြစ်ပါသည်။ စီ-ဘီ-အာ (ရေစိမ်) တန်ဖိုးသည် (၈၀)ရာခိုင်နှုန်းအထက်ရှိစေရမည်။

(င) **လမ်းမျက်နှာပြင်ညှိလွှာ (Regulating Course) ။** လက်ရှိလမ်းမျက်နှာပြင် အနေအထားအပေါ် မူတည်၍ (Penetration Macadam) မခင်းမီ လမ်းမျက်နှာပြင် ညှိလွှာကို သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရမည်။

(စ) **ကနဦးလွှာကတ္တရာလောင်းခြင်း။** ကတ္တရာရေပိတ်လွှာမလောင်းမီ လမ်းမျက်နှာပြင် အား ဖုန်များ၊ ရွှံ့များ၊ အမှိုက်သရိုက်များ သန့်ရှင်းအောင်ဆောင်ရွက်ရမည်။ ရေပိတ်လွှာ ကတ္တရာအား "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရမည်။

(ဆ) **ကတ္တရာဖြင့် (Penetration Macadam) တည်ဆောက်၍ ကတ္တရာရေပိတ်လွှာ တစ်ထပ်ခင်းခြင်းလုပ်ငန်း။** ကတ္တရာဖြင့် (Penetration Macadam) သိပ်သည်းပြီး (၃) လက်မ အထူကို လမ်းသုတေသနဓာတ်ခွဲခန်းမှ သတ်မှတ်ပေးသည့် စံချိန်စံညွှန်းနှင့် အညီ ဆက်လက်တည်ဆောက်ရမည်။ (နောက်ဆက်တွဲ (က) ပါအတိုင်း)

(၈) ဤစီမံကိန်းလုပ်ငန်း၏ လမ်းနယ်နိမိတ်အား ဖြတ်သန်းသည့်နေရာများတွင် ပေ (၂၀၀) အကျယ်သတ်မှတ်သည်။

(၉) လမ်းသားတည်ဆောက်ရာတွင် ယာဉ်နှင့် ကုန်အလေးချိန်စုစုပေါင်းအနည်းဆုံး (၆၀) တန်ခံနိုင်ရန် တည်ဆောက်ပေးရမည်။

(ည) တံတားတည်ဆောက်ရာတွင် (**AASHTO HS 20 -44** လမ်းမကြီးများ သတ်မှတ် **စံချိန်စံညွှန်းအရ)** ယာဉ်နှင့် ကုန်စုစုပေါင်း အလေးချိန် (၆၀) တန်ခံနိုင်ရန် တည်ဆောက်ပေးရမည်။ တံတားအပေါ်ပိုင်း ကိုယ်ထည်မှာ သံမဏိသံဘောင်တံတား (သို့မဟုတ်) သံအားဖြည့် ဘိလပ်မြေကွန်ကရစ်တံတား ကိုယ်ထည်များ ဖြစ်စေရပါမည်။

**"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" တာဝန်များ**

၄။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** မှ ပဋိညာဉ် စာချုပ်ပါ လုပ်ငန်းများဆောင်ရွက်နိုင်ရန် နှင့် ဥပဒေနှင့်အညီ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော သက်ဆိုင်ရာ ဝန်ကြီးဌာနများ ၊ အစိုးရဌာနများ၏ အတည်ပြုချက် ၊ သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ဆောင်ရွက်ပေးရမည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် လုပ်ငန်းစီမံကိန်းအတွက် အဆိုပြုထားသော လမ်းဖြောင့်ဟန်းမှုအပိုင်း ရရှိစေရန် ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

(ဃ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ ဖောက်လုပ်ပြီးစီးပါက လုပ်ငန်းစီမံကိန်း၏ အပြီးသတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ် (Final Completion Certificate) ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား ထုတ်ပေးရမည်။ ထုတ်ပေးသော နေ့မှစ၍ လမ်းအသုံးပြုခ ကောက်ခံခြင်းကိုလည်း ခွင့်ပြုရမည်။

(င) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် အိမ်ယာစီမံကိန်းများ ဆောက်လုပ်ပြီးစီးပါက မြေနှင့် အဆောက်အဦပိုင်ဆိုင်မှု အထောက်အထားစာရွက်စာတမ်းများ ထုတ်ပေးရမည်။

**"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ တာဝန်များ**

၅။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် ဤစာချုပ်ပါ လမ်းအပိုင်းအတွက် လမ်း-တံတား အသုံးပြုခ ကောက်ခံရန် တစ်ဦးတည်းကိုယ်စားလှယ်အဖြစ် ဆောင်ရွက်ရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် ပဋိညာဉ်စာချုပ်ပါ အချက်များနှင့်အညီ လုပ်ငန်း အတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန် နှင့် ပုံစံပြုခြင်း ၊ လုပ်ငန်းအကောင်အထည် ဖော်ခြင်း၊ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ခြင်းနှင့် ပဋိညာဉ်စာချုပ်ပါ အချက်များနှင့်အညီ ပျက်ကွက်မှုတစ်စုံတစ်ရာအတွက် ပြင်ဆင်ပြုပြင်ခြင်းတို့ကို သဘောတူပြီး ဖြစ်သည့်အတိုင်း ဆောင်ရွက်ရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် အပိုဒ် (၂) နှင့် (၃) ပါ လုပ်ငန်းများကို ပြီးဆုံးအောင် ဆောင်ရွက်ရန် တာဝန်ရှိသည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ကြီးကြပ်သူ ၊ အလုပ်သမား ၊ စက်ရုံ ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းထောက်ပံ့ရမည့်အပြင် ပုံစံပြုခြင်း၊ လုပ်ငန်း အကောင်အထည် ဖော်ခြင်း ၊ ပြီးဆုံးအောင်ဆောင်ရွက်ခြင်း နှင့် ပျက်ကွက်မှုအတွက် ပြင်ဆင်မှုပြုပေးခြင်း စသည်တို့ကို ဆောင်ရွက်ရမည်။

(င) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ယင်း၏ ထိန်းချုပ်မှုအောက်ရှိ ဆောက်လုပ်ရေး စခန်းအားလုံးနှင့် လုပ်ငန်းခွင်နေရာများအား လုံလောက်မှု ၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်း စေလိုမှုတို့အတွက် အပြည့်အဝ တာဝန်ယူရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပြည်တွင်းမှ ဝန်ထမ်းများ ၊ အလုပ်သမားများ ၊ ယင်းတို့၏ လုပ်အားခ ၊ နေအိမ် ၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့အပြင် လုပ်ငန်းဆောင်ရွက်ရန် အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ ၊ လက်မှုပညာသည်များနှင့် အလုပ်သမား များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထား နိုင်သည်။

(ဆ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဝန်ထမ်းများနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များပြုလုပ်ပေးရမည်။

(ဇ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပုံစံပြုဆောင်ရွက်စဉ်နှင့် လုပ်ငန်းအကောင်အထည် ဖော်စဉ်အတွင်း လိုအပ်သော ကြီးကြပ်ကွပ်ကဲမှုများကို လုပ်ငန်းအပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် (Final Completion Certificate) ရရှိသည်အထိ ပြုလုပ်ပေးရမည်။ (Final Completion Certificate) ရရှိပြီး "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ သဘောတူညီချက် ရသည့် အချိန်မှစ၍ လမ်းအသုံးပြုခကို စတင်ကောက်ခံခွင့်ရှိသည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ် အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းများကို လေးစားလိုက်နာရန် နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(ည) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လမ်းနှင့် တံတားများ၏ ပုံစံအတွက် အဆိုပြုချက် တင်သွင်းရမည်။ သို့ရာတွင် ယင်းတို့သည် အသေးစိတ်ဖော်ပြချက်ကို လိုအပ်ချက်များထက် အဆင့်မနိမ့်စေရ ၊ အဆိုပြုချက်အသစ်တင်ပြရန် လိုအပ်လာပါက အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့်အချိန်ဇယားသည် နောက်ကျခြင်း မရှိစေရ။

(ဎ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု (လုပ်ငန်းခွင် နေရာအတွင်း နှင့် အပြင်) အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု ၊ ရေနှင့်မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူအား နှောက်ယှက်မှုမရှိစေရန်တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဏ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် သဘာဝအရ တားဆီးကာကွယ်ရန် မဖြစ်နိုင်သော အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန် အတွင်း လုပ်ငန်းကို ပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံစာဖြင့် ရေးသား၍ တောင်းဆိုမှုပြုနိုင်သည်။ ယင်းတောင်းဆိုချက်တွင် လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်မှုအတွက် အသေးစိတ်အချက်အလက်များနှင့် အချိန်တိုးမြှင့်ပေးရန်အတွက် အသေးစိတ် အကြောင်းပြချက်များပါဝင်ရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

(ဍ) လမ်းဖြတ်သန်းသွားလာသည့် ဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် သစ်တောဥပဒေပါပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ပ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်းတံတား အသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့် နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။

(ဏ) တိုင်းဒေသကြီးအစိုးရနှင့် လမ်းဦးစီးဌာနမှ လက်မှတ်ရရှိထားသော ကင်းလွတ်ခွင့်ပြုထားသည့် မော်တော်ယာဉ်များမှအပ ကျန်မော်တော်ယာဉ်များကို လမ်းအသုံးပြုခ ကောက်ခံနိုင်သည်။

(တ) စတင်ကောက်ခံသည့် ပထမ (၅) နှစ်ကာလအတွက် လမ်းအသုံးပြုခမှ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလ အတွက် အောက်ပါအတိုင်း မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ပေးသွင်းရန်ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၅) နှစ်အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (၂) | ၆ နှစ်မြောက်မှ ၂၀ နှစ်မြောက်အထိ (၁၅) နှစ် | - ၅% ပေးသွင်းရန် |
| (၃) | ၂၁ နှစ်မြောက် မှ ၃၀ နှစ်မြောက်အထိ (၁၀) နှစ် | - ၁၀% ပေးသွင်းရန် |
| (၄) | ၃၁ နှစ်မြောက် မှ ၄၀ နှစ်မြောက်အထိ (၁၀) နှစ် | - ၁၅% ပေးသွင်းရန် |
| (၅) | ၄၁ နှစ်မြောက် မှ ၅၀ နှစ်မြောက်အထိ (၁၀) နှစ် | - ၂၀% ပေးသွင်းရန် |
| (၆) | ၅၁ နှစ်မြောက်မှစ၍ | - ၂၅% ပေးသွင်းရန် |

(ထ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် လမ်းအသုံးပြုခ ကောက်ခံရငွေ စုစုပေါင်း၏ စာရင်းဇယားများကို နှစ်သက်တမ်းအလိုက် ပြက္ခဒိန်နှစ်၏ ဇန်နဝါရီလ (၁) ရက်မှ ထိုနှစ် ဒီဇင်ဘာလ (၃၁) ရက်နေ့အထိ စနစ်တကျ တိကျမှန်ကန်စွာ ပြုစုထားရမည်။ တစ်နှစ်တာ လမ်းအသုံးပြုခ ကောက်ခံရငွေများစာရင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ စာရင်းစစ်အဖွဲ့ လာရောက် စစ်ဆေးချိန်တွင် စစ်ဆေးခံရန် အသင့်ဖြစ်နေရမည်။

(ဒ) လမ်းအသုံးပြုခ ကောက်ခံရငွေများစာရင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ စာရင်းစစ်အဖွဲ့မှ နောက်နှစ်၏ နှစ်ဆန်း ဇန်နဝါရီလ (၁) ရက်နေ့မှစတင်၍ လာရောက်စစ်ဆေးပြီး နှစ်သက်တမ်း အလိုက် ပေးသွင်းရမည့် ရာခိုင်နှုန်းအရ ကျသင့်ငွေပမာဏကို ဖော်ပြအသိပေး အကြောင်းကြားရမည်။

(ဓ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏စာရင်းစစ်အဖွဲ့မှ ကောက်ခံရငွေများစာရင်းကို စစ်ဆေးပြီး နောက်နေ့မှစ၍ ရက်ပေါင်း (၉၀)အတွင်း "လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ" မှ သတ်မှတ်ထားသော အစိုးရဘဏ်နှင့် ငွေစာရင်းအမှတ်သို့ ဘဏ်ငွေလွှဲလွှာ (သို့မဟုတ်) မျဉ်းသားချက်လက်မှတ်ဖြင့် ပေးသွင်းရပါမည်။ နိုင်ငံတော်သို့ ပေးသွင်းရမည့် ငွေပမာဏကို ရက်ပေါင်း (၉၀) အတွင်း အကြေပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းပြီးကြောင်း အထောက်အထားငွေသွင်းချလံကို (၇) ရက်အတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်ပြရပါမည်။ အဆိုပါပေးသွင်းရမည့် သတ်မှတ် ရက်ထက် ကျော်လွန်ပေးသွင်းပါက ရက်လွန် ဒဏ်ကြေးအဖြစ် (၁) ရက်လျှင် ပေးသွင်းရမည့် ငွေ (၁၀၀) ကျပ်လျှင် (၁) ကျပ်နှုန်း အပိုဆောင် ပေးသွင်းရမည်။ ရက်လွန် ဒဏ်ကြေးပါ ပေးသွင်းရပါက ပေးသွင်းရန်ငွေနှင့် ရက်လွန်ဒဏ်ကြေး ပေးသွင်းခြင်းကို အစစ်ဆေးခံသည့်နှစ် နောက်ပြက္ခဒိန်နှစ်၊ ဒီဇင်ဘာလ (၃၁) ရက်နေ့ထက် မကျော်လွန်စေရပါ။

(န) ညှိနှိုင်းထားသော ကောက်ခံနှုန်းများအတိုင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ကောက်ခံရာတွင် အကျိုးအမြတ် မရရှိမှု၊ အရှုံးပေါ်မှုများ ရှိလာပါက ကောက်ခံသည့် လမ်းအသုံးပြုခနှုန်းထား များကို ညှိနှိုင်းပြင်ဆင်ရန်အတွက် တင်ပြခွင့်ရှိသည်။ သို့ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ စာရင်းစစ်အဖွဲ့မှ စိစစ်ထားသည့် (၁)နှစ်ချင်း ဝင်ငွေ ၊ ထွက်ငွေ ၊ အရှုံးအမြတ် စာရင်းဇယား အတိအကျကို အထောက်အထားနှင့် ပူးတွဲတင်ပြရမည်။

(ပ) ခွင့်ပြုထားသော စာချုပ်သက်တမ်းကာလ ကနဦးနှစ် (၅၀) ပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ အကျိုးအမြတ် မရရှိခဲ့လျှင်သော်လည်းကောင်း၊ ဆက်လက် ဆောင်ရွက်လိုလျှင်သော် လည်းကောင်း ကောက်ခံမှုသက်တမ်းကာလကို (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်၍ ကောက်ခံခွင့်ရရှိရေးအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်ပြနိုင်သည်။

(ဖ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် တရားဝင်ကိုယ်စားလှယ်ခန့်ရန် ရည်ရွယ်သူ(များ)၏ အမည်၊ ကိုယ်ရေးအချက်အလက်များကို လုပ်ငန်းစတင်ရန် အကြောင်းကြားစာ ထုတ်ပေးသည့်နေ့မှ (၁၄) ရက်အတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်ပြရမည်။

(ဗ) ယင်းကိုယ်စားလှယ်သည် ဆောက်လုပ်ရေးနှင့် သက်ဆိုင်သည့် အထောက်အထားများ ပြင်ဆင်ထားရှိခြင်း၊ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ခြင်းများကို အချိန်ပြည့် ဆောင်ရွက်ပေးရမည်။

(ဘ) ယင်းကိုယ်စားလှယ်သည် လုပ်ငန်းခွင်မှ ပျက်ကွက်သည့်အခါ သင့်တော်သူတစ်ဦးကို အစားထိုး ခန့်ထားပြီးနောက် အစားထိုး ခန့်ထားကြောင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ အကြောင်း ကြားရမည်။

**လုပ်ငန်းအာမခံ (Performance Bank Guarantee)**

၆။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ ( ၁ ) ရာခိုင်နှုန်းနှင့်ညီမျှသောငွေကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များ မပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ ပေးအပ်ရမည်။ အဆိုပါ ဘဏ်အာမခံသက်တမ်းသည် ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်သည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာ ရရှိပြီး (၃၀) ရက်အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က သိမ်းယူရမည်။ ဘဏ်အာမခံငွေကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း "လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ" ထံ ပြန်လည်ထုတ်ပေးရမည်။ (ဘဏ်အာမခံပုံစံ ပူးတွဲထားပါသည်။)

**လမ်းတံတားအသုံးပြုခကောက်ခံခြင်း**

၇။ လမ်း-တံတားအသုံးပြုခကောက်ခံရန် နည်းလမ်းများမှာ အောက်ပါအတိုင်းဖြစ်သည် -

(က) ''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ'' မှ အဆိုပြုတင်ပြလာသည့် လမ်းအပိုင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က သဘောတူပါက လမ်း-တံတားအသုံးပြုခ ကောက်ခံသည့် ဂိတ်ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က အဆင့်မီအောင် Steel, Aluminium, Brick Structure or Coposite တို့ဖြင့် စနစ်တကျတည်ဆောက်ရမည်။ (ဂိတ်တည်နေရာကို နောက်ဆက်တွဲ (ခ) ပါအတိုင်း)

## စာချုပ်စာတမ်း မူရင်းခွဲ (၁ဦး) မူရင်း မိတ္တူဖြစ်ကြောင်း သက်သေခံချက်

" ဤစာချုပ်သည် မြန်မာနိုင်ငံ တံဆိပ်ခေါင်း အက်ဥပဒေ ဇယား (၁) တွင် ပါရှိသော အမှတ်စဉ် (၂၅) အရ အရောင်းစာချုပ် စာချုပ် အမျိုးအစား ဖြစ်၍ တံဆိပ်ခေါင်းခွန်ကျပ် ၁၇၅၅၅၄၀၂ ထိုက်သင့်သည့် စာချုပ်စာတမ်း အမျိုးအစား ဖြစ်ပါသည်။

မူရင်း စာချုပ်တွင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန်ကျပ် ၁၇၅၅၅၄၀၂ အား ၁၅.၃.၂၀၁၆ ရက်နေ့တွင် အောင်မြေသာစံမြို့နယ်တွင် ပေးဆောင်ပြီးဖြစ်ကြောင်း တွေ့ရှိရပြီး မူရင်း စာချုပ်နှင့် တိုက်ဆိုင်စစ်ဆေးရာတွင် မှန်ကန်ကြောင်း စိစစ်တွေ့ရှိရပါသည်။ ယခု မူရင်းခွဲ (၁ဦး) မူရင်း မိတ္တူ ပြုလုပ်သော စာချုပ်တွင်လည်း ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန်ကျပ် ၁၀၀ အား ၁၅.၃.၂၀၁၆ ရက်နေ့တွင် ပေးဆောင်ပြီး ဖြစ်ပါသဖြင့် အထက်ပါ မူရင်းစာချုပ်၏ မူရင်းခွဲ (၁ဦး) မူရင်း မိတ္တူ ဖြစ်ပါကြောင်း သက်သေခံပါသည်။"




(ရဝင်းနိုင်)
မြို့နယ်အခွန်ဦးစီးဌာနမှူး
အောင်မြေသာစံမြို့နယ်

(ခ) ဖြတ်သန်းသွားလာသည့်ကားများကို ဖြတ်သန်းခအဖြစ် BOT ပုံစံဖော်ပြထားသည့် နှုန်းထားအတိုင်း မိုင် (၂၀) အတွက် ယာဉ်အသေး တစ်စီးလျှင် တစ်ထောင်ကျပ် ၊ ယာဉ်အလတ်တစ်စီးလျှင် တစ်ထောင့်ငါးရာကျပ် ကောက်ခံပါမည်။ (၅)နှစ်ပြည့်လျှင် ညှိနှိုင်း၍ တိုးမြှင့်ကောက်ခံသွားပါမည်။

<u>လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူကိုယ်စား</u>

ဦးကျော်ဆန်း
လမ်းပန်းဆက်သွယ်ရေးဝန်ကြီး
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

<u>လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ</u>

ဦးစိုင်းအောင်ကြီး
မန်နေးဂျင်းဒါရိုက်တာ
အေစီယွန်မန္တလေးဟိုက်ဝေးကုမ္ပဏီလီမိတက်
အမှတ်(၆၅၂)၊ ၇၈လမ်း၊ ၃၇×၃၈လမ်းကြား၊ မန္တလေးမြို့။




**<u>"အ သိ သက် သေ များ"</u>**




၁။ ဦးဝင်းရှိန်
အတွင်းရေးမှူး
မန္တလေးတိုင်းဒေသကြီးအစိုးအရအဖွဲ့
မန္တလေးမြို့။

၂။ ဦးမိုးမြင့်သာ
ဒါရိုက်တာ
၉/အမဇ (နိုင်) ၀၃၆၈၉၀
အေစီယွန်မန္တလေးဟိုက်ဝေးကုမ္ပဏီလီမိတက်
အမှတ် (၂၁/၂၈)၊ ၂၂×၂၃ လမ်းကြား၊
၈၉ လမ်း ၊ မန္တလေးမြို့။

C B BANK
CO-OPERATIVE BANK LTD.
SINCE 1992

CO-OPERATIVE BANK LTD.

No. 334/336, Corner of 23rd Street & Strand Road, Latha Township, Yangon 11142, Myanmar. Email: contact@cbbankmm.com Website: www.cbbankmm.com
Tel: (95-1)371 848, 372 646, 372 655, 373 425, 373 426, Fax: (95-1) 371 851, 377 027,389 594, 249 473, 378 067 Call Center : 1874

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့။

Date.7.3.2016

Dear Sir,

**Our Letter of Guarantee No.1/LG/3-2016**

**Dated (7.3.2016) to (6.3.2017)**

At the request of Axiom Mandalay Highway Construction Co.,Ltd No-(652), 78 Street, Between 37 * 38,Maharaungmey Township, Mandalay. The Co-Operative Bank Limited do hereby agree to pay you against the Guarantee the sum of MMK-35,000,000/-(Myanmar Kyat ThirtyFive Million Only) being the Performence Bank Guarantee in respect of the Contract No-2/2016 Date 23rd February 2016 For the supply of Pitch.

This Performence Bank Guarantee will remain in force for the period of (1-Year) with effect from 7th March 2016 to 6th March 2017.

All claims of notice claims in writing hereunder shall be considered void unless submitted during the effective period.

Yours Faithfully,

(Kyaw Thura)
Deputy;Manager
CB Bank (Mdy-1)Branch

(San Yin Win)
Manager
CB Bank (Mdy-1)Branch

တီ၊ အက် (ဖ်) အမှတ် (၅)

03/15/2016 Mandalay 2
Rec No : 74667 12:24:12 1
A/c No :
Ch. No :(182)
Open Amt K:4509483827.83
Close Bal K:4527069229.83

တံဆိပ်ခေါင်းခွန် ငွေသွင်းချလန်

ငွေစာရင်းခေါင်းစဉ် ၁၁၃-၈၂-၈-၁ တံဆိပ်ခေါင်းရုံးအမှတ် MD-010900

MD-010900

သို့

မန်နေဂျာ ဘဏ်နှင့်မြို့။

မြန်မာ့စီးပွားရေးဘဏ်(မန္တလေးဘဏ်ခွဲ-၂)

ငွေတိုက်ခွဲအရာရှိ မန္တလေးဘဏ်ခွဲ-၂ မြို့။

ကျောဘက်ပါစာရင်းအတိုင်း တံဆိပ်ခေါင်း အခွန်ငွေအတွက်

အေစီယွန် မန္တလေးဟိုက်ဝေး ကုမ္ပဏီ က ပေးသွင်းရန်ရှိသည့် ငွေပေါင်း(စာဖြင့်)

တစ်ဆယ့်ခုနစ်သန်းငါးသိန်းရှစ်သောင်းငါးထောင့်လေးရာ့နှစ် ကျပ်တိတိ

ငွေပေါင်း(ဂဏန်းဖြင့်) ၁၇၅၈၅၄၀၂/-

ကိုလက်ခံပါမည့်အကြောင်း။

အောင်မြေသာစံ မြို့၊ (ဇော်ရင်)

14/03/2016 နေ့စွဲ။ ပေးသွင်းသူ၏ တံဆိပ်ခေါင်းအရာရှိ၏ လက်မှတ်

182



ပေးသွင်းငွေကို လက်ခံရရှိပါသည်။

မြို့၊ မန်နေဂျာ ဘဏ်နှင့်မြို့။

နေ့စွဲ။ ငွေတိုက်ခွဲအရာရှိ မြို့။

15 MAR 2016

[ကျောဘက်သို့ကြည့်ပါ ]။



AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD.
မန္တလေး – ပြင်ဦးလွင် လမ်းစီမံကိန်း
အနာဂတ်ရည်မှန်းချက်လမ်း
ပြင်ဦးလွင်မြို့
N
S
W
E
KE
MTU
A
B
C
D
length : 6000 m
length : 2900 m
length : 3250 m
length : 4530 m
length : 7850 m
length : 3505 m
TAUNG KYUN RESERVED FOREST
SA KAN GYI RESERVED FOREST
PYIN OO LWIN RESERVED FOREST
SA YUN GYI RESERVED FOREST
TAUNG GYO RESERVED FOREST
PYINOOLWIN DISTRICT
MANDALAY DISTRICT
ရည်ညွှန်းချက်
လက်ရှိဖောက်လုပ်နေသည့်လမ်း
အနာဂတ်ရည်မှန်းချက်လမ်း



008782

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၂၄၉၈ / ၂၀၁၄-၂၀၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၄ နှစ်၊ ဩဂုတ် လ၊ ၁၈ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

(နီလာမူ၊ ဒုတိယညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 2498 of 2014-2015

I hereby certify that AXIOM MANDALAY HIGHWAY CONSTRUCTION COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this EIGHTEENTH day of AUGUST, TWO THOUSAND AND FOURTEEN.

**For Director General**
**( Nilar Mu, Deputy Director )**
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးစိုင်အောင်ကြီး (၁၃/ကမန(နိုင်)၀၀၀၄၃၅)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၆၅၂)၊၇၈-လမ်း၊၃၇-လမ်းနှင့်၃၈-လမ်းကြား မဟာအောင်မြေမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၂-၇၂၆၃၃၊၀၂-၇၂၆၃၇.................

(ဃ) ဒါရိုက်တာများ အမည်စာရင်း–.....................................

(၁) ဦးထက်အောင်လှိုင်
၉/ပဥလ(နိုင်)၀၂၃၈၅၁

(၂) ဦးသန်းနိုင်ဇော်
၉/ပဥလ(နိုင်)၀၂၉၈၂၅

(၃) ဦးသိန်းတန်
၅/ခဥတ(နိုင်)၀၀၇၈၇၅

(၄) ဦးစောလှထွန်း
၅/ခဥတ(နိုင်)၀၀၇၆၉၈

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၈-၈-၂၀၁၄ )မှ (၁၇-၈-၂၀၁၉ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီး မြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင် လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(သင်းသင်းမြတ်၊ လက်ထောက်ညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့် ရက်စွဲ၊ 27 AUG 2014

3505.




The Government of the Republic of the Union of Myanmar
Ministry of Commerce
Directorate of Trade

# CERTIFICATE OF EXPORTER/IMPORTER REGISTRATION

1. Enterprise Name (မြန်မာ/အင်္ဂလိပ်): AXIOM MANDALAY HIGHWAY CONSTRUCTION COMPANY LIMITED.

2. Registration No: 34517(08-09-14)

3. Registration Term: FIVE YEAR

4. Start Date : 08-09-2014

5. End Date : 17-08-2019

6. Address : (မြန်မာ/အင်္ဂလိပ်) No.(652), 78th Street, Between 37th Street & 38th Street, Mahar Aung Myay Township,
Mandalay Region,Myanmar

7. Business Registration No : 2498/2014-2015(18-8-2014)

8. Type of Business : (မြန်မာ/အင်္ဂလိပ်)
- ☐ Sole Proprietorship(တစ်ဦးတည်းပိုင်) ☐ Partnership(အစုစပ်)
- ☑ Limited Company(လီမိတက်ကုမ္ပဏီ)(Myanmar/~~Foreign~~)
- ☐ Co-operative Society(သမဝါယမအသင်း)
- ☐ Others(Please specify)အခြား(ဖော်ပြရန်) သင်းဖွဲ့မှတ်တမ်းပါလုပ်ငန်း( )မျိုး ဆောင်ရွက်ခွင့်ရှိသည်။

9. Type of Service : ◉ New ◉ Extension

10. Contact No :

| Telephone No. | Fax No. | e-mail |
|---|---|---|
| 02-72633 02-72637 | 02-72633 | axiommdy@gmail.com |

11. Remarks :

12. Terms and Conditions : စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter/Importer subject to the following terms and conditions: (အောက်ဖော်ပြပါစည်းကမ်းချက်များဖြင့် ပို့ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်)

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် - တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ကုန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/Import rules and Regulations prescribed for the registered Exporters/Importers.(လုပ်ငန်းရှင်သည် မှတ်ပုံတင် ပို့ကုန်သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့်စည်းကမ်းချက်များကို လိုက်နာရမည်)




Stamp

For Director General

စင်းကြည်၊ ဒုတိယညွှန်ကြားရေးမှူး

8.9.14

EIREG091470EIREGEX12130012

**လုပ်ငန်းရည်ရွယ်ချက်များမှာ**

သင်းဖွဲ့မှတ်တမ်းပါလုပ်ငန်း (၄၈) မျိုးဆောင်ရွက်ခွင့်ရှိသည်

0023351





FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 28th of August, 200 2014.

on the of 200 of the * AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................... 5000 Shares

" " " " ....................

Nominal amount of the shares so allotted .................... Ks.50,000,000/-

" " " " ....................

Amount paid or due and payable on cash such share .................... Ks. 10,000/-

" " " " .................... (Fully Paid Up)

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted .................... NIL

Amount to be treated as paid on each such share .................... NIL

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.




Presented for filing by : U Sai Aung Gyi (Director)

Name, Address and Description of Allotees

72

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U Sai Aung Gyi 13/Ka Ma Na (Naing) 000435 | No.100(Za), Lan Tharyar Street, Ward No.(6), Pyin Oo Lwin Township, Mandalay Region. | Merchant | | 500 Shares |
| 2. U Htet Aung Hlaing 9/Pa Ou La (Naing) 023851 | No.(S/38), Zizawar Garden Housing, Than Thu Mar Road, Ward No.(15), South Okkalapa Township, Yangon Region. | Merchant | | 1500 Shares |
| 3. U Than Naing Zaw 9/Pa Ou La (Naing) 029825 | No.(S/38), Zizawar Garden Housing, Than Thu Mar Road, Ward No.(15), South Okkalapa Township, Yangon Region. | Merchant | | 1500 Shares |
| 4. U Thein Tan 5/Kha Ou Ta (Naing) 007875 | No.21/28, 89th Street, Between 22nd Street & 23rd Street, Thiri Marlar East Quarter, Aung May Thar San Township, Mandalay Region. | Merchant | | 750 Shares |
| 5. U Saw Hla Tun 5/Kha Ou Ta (Naing) 007698 | No.21/28, 89th Street, Between 22nd Street & 23rd Street, Thiri Marlar East Quarter, Aung May Thar San Township, Mandalay Region. | Merchant | | 750 Shares |
| | | | Total; | 5000 Shares |

Signature

Date

19 - 8 - 2014 U SAI AUNG GYI
MANAGING DIRECTOR
AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD.

FORM VI

015644

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

( Myanmar Companies Act, See Section 87 )

Name of Company : AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD

Presented by : U Sai Aung Gyi ( Managing Director )

| | The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U Sai Aung Gyi | Myanmar 13/Ka Ma Na (Naing) 000435 | No.100(Za), Lan Tharyar Street, Ward No.(6), Pyin Oo Lwin Township, Mandalay Region. | Merchant | Managing Director |
| 2. | U Htet Aung Hlaing | Myanmar 9/Pa Ou La (Naing) 023851 | No.(S/38), Zizawar Garden Housing, Than Thu Mar Road, Ward No.(15), South Okkalapa Township, Yangon Region. | Merchant | Director |
| 3. | U Than Naing Zaw | Myanmar 9/Pa Ou La (Naing) 029825 | No.(S/38), Zizawar Garden Housing, Than Thu Mar Road, Ward No.(15), South Okkalapa Township, Yangon Region. | Merchant | Director |
| 4. | U Thein Tan | Myanmar 5/Kha Ou Ta (Naing) 007875 | No.21/28, 89th Street, Between 22nd Street & 23rd Street, Thiri Marlar East Quarter, Aung Myay Thar Zan Township, Mandalay Region. | Merchant | Removed from Director w.e.f : 12 - 10 - 2015 Expired on : 17 - 5 - 2015 |
| 5. | U Saw Hla Tun | Myanmar 5/Kha Ou Ta (Naing) 007698 | No.21/28, 89th Street, Between 22nd Street & 23rd Street, Thiri Marlar East Quarter, Aung Myay Thar Zan Township, Mandalay Region. | Merchant | Resigned as Director w.e.f : 12 - 10 - 2015 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..............................................

Designation ...............U SAI AUNG GYI........
MANAGING DIRECTOR
AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD.

Dated this 12 - 10 - 2015

Form (26)




FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

( Myanmar Companies Act, See Section 87 )

015638

Presented by : U Sai Aung Gyi ( Managing Director )

Name of Company : AXIOM MANDALAY HIGHWAY CONSTRUCTION CO., LTD

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 6. U Moe Myint Thar | Myanmar 9/Ah Ma Za (Naing) 036890 | Block No.(192), Thiri Marlar East Quarter, Aung Myay Thar Zan Township, Mandalay Region. | Merchant | Appointed as Director w.e.f : 12 - 10 - 2015 |
| 7. Daw Su Pyae Thar | Myanmar 9/Ah Ma Za (Naing) 036891 | Block No.(192), Thiri Marlar East Quarter, Aung Myay Thar Zan Township, Mandalay Region. | Merchant | Appointed as Director w.e.f : 12 - 10 - 2015 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..............................

Designation ..............U SAI AUNG GYI.........
MANAGING DIRECTOR
AXIOM MANDALAY HIGHWAY CONSTRUCTION CO.,LTD.

Dated this 12 - 10 - 2015

Form (26)

၆။ (ဃ) **အကျိုးအမြတ် ခွဲဝေမည့် အချိုးအစား**

| | | |
|---|---|---|
| (၁) | ဦးစိုင်းအောင်ကြိုး | ၁၀% |
| (၂) | ဦးထက်အောင်လှိုင် | ၃၀% |
| (၃) | ဦးသန်းနိုင်ဇော် | ၃၀% |
| (၄) | ဦးမိုးမြင့်သာ | ၁၅% |
| (၅) | ဒေါ်စုပြည့်သာ | ၅% |

(င) **အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

| | | |
|---|---|---|
| (၁) | ဦးစိုင်းအောင်ကြိုး | Managing Director |
| (၂) | ဦးထက်အောင်လှိုင် | Director |
| (၃) | ဦးသန်းနိုင်ဇော် | Director |
| (၄) | ဦးမိုးမြင့်သာ | Director |
| (၅) | ဒေါ်စုပြည့်သာ | Director |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# AXIOM MANDALAY HIGHWAY CONSTRUCTION COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**



၁။ ကုမ္ပဏီ၏အမည်သည် **အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /-( ကျပ် **သန်းငါးရာ** တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀.၀၀ /-( ကျပ် **တစ်သိန်း** တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၅။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂။ သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၃။ တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
၄။ ရေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၅။ ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
၆။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
၇။ စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
၈။ အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၉။ လူသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၀။ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
၁၁။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၂။ ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
၁၃။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
၁၄။ ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
၁၅။ စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၆။ အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
၁၇။ စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
၁၈။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
၁၉။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
၂၀။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
၂၁။ တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
၂၂။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
၂၃။ ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
၂၄။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၅။ အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၆။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၇။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
၂၈။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
၂၉။ စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၀။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၁။ အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
၃၂။ အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
၃၃။ ဆောက်လုပ်ရေးလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
၃၄။ ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
၃၅။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
၃၆။ ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
၃၇။ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
၃၈။ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
၃၉။ တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
၄၀။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
၄၁။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
၄၂။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
၄၃။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
၄၄။ ဆောက်လုပ်ရေးလုပ်ငန်း
၄၅။ ကျောက်မျက်လုပ်ငန်း
၄၆။ ခရီးသွားလုပ်ငန်း
၄၇။ ဟိုတယ်လုပ်ငန်း
၄၈။ အသေးစားငွေရေးကြေးရေးလုပ်ငန်း

၆။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ ခချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ညွှန်ကြားချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်မြင်း သို့မဟုတ် မှန်ကန်ခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး စိုင်းအောင်ကြီး<br>ကုန်သည်<br>အမှတ်၁၀၀(ဇ)၊လမ်းသာယာလမ်း၊(၆)ရပ်ကွက် ပြင်ဦးလွင်မြို့ မန္တလေးတိုင်းဒေသကြီး | ၁၃/ကမန(နိုင်)၀၀၀၄၃၅ | ၅၀၀ | |
| ၂ | ဦး ထက်အောင်လှိုင် <br>ကုန်သည်<br>အမှတ်(အက်စ်/၃၈)၊ဇီဇဝါဉယျာဉ်အိမ်ရာ၊သံသုမာ လမ်း၊(၁၅)ရပ်ကွက် တောင်ဥက္ကလာပမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၉/ပဥလ(နိုင်)၀၂၃၈၅၁ | ၁၅၀၀ | Htet Aung |
| ၃ | ဦး သန်းနိုင်ဇော်<br>ကုန်သည်<br>အမှတ်(အက်စ်/၃၈)၊ဇီဇဝါဉယျာဉ်အိမ်ရာ၊သံသုမာ လမ်း၊(၁၅)ရပ်ကွက် တောင်ဥက္ကလာပမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၉/ပဥလ(နိုင်)၀၂၉၈၂၅ | ၁၅၀၀ | |
| ၄ | ဦး သိန်းတန်<br>ကုန်သည်<br>အမှတ်(၂၁/၂၈)၊၈၉လမ်း၊၂၂လမ်းနှင့်၂၃လမ်းကြား၊သီရိမာလာအရှေ့ရပ်ကွက် အောင်မြေသာဇံမြို့နယ် မန္တလေးတိုင်းဒေသကြီး | ၅/ခဥတ(နိုင်)၀၀၇၈၇၅ | ၇၅၀ | |

ပြည်တော်။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ ၀၈ လ၊ ၀၈ ရက်။

ဦး[illegible] (ဥပဒေဘွဲ့)
တရားလွှတ်တော်ရှေ့နေ
[illegible]
[illegible]

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ကုမ္ပဏီ မှတ်ပုံတင်ခြင်း

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီ ယ်ငှသည် ဤ သင်းဖွဲ့မှတ်ဟာမ်း အရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ ထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၅ | ဦး စောလှထွန်း<br>ကုန်သည်<br>အမှတ်(၂၁/၂၈)၊ ၈၉-လမ်း၊ ၂၂-လမ်း နှင့် ၂၃ လမ်းကြား၊ သီရိမာလာအရှေ့ရပ်ကွက်၊ အောင်မြေသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ | ၅/ခဥတ(နိုင်)၀၀၇၆၉၈ | ၇၅၀ | (လက်မှတ်) |

ပြည်တော် ။ နေ့စွဲ ၊ ၂၀၁၄ ခုနှစ်၊ ၀၈ လ၊ ၀၈ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(လက်မှတ်)

မှတ်ပုံတင်အရာရှိ

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အေစီယွမ် မန္တလေးဟိုင်းဝေး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

**အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ**

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

**မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ**

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀,၀၀၀,၀၀၀ /-(ကျပ်
**သန်းငါးရာ** တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀.၀၀ /-(ကျပ်
**တစ်သိန်း** တိတိ)တန်အစုရှယ်ယာပေါင်း ၅၀၀၀၀ ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း
သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ )ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

( ၁ ) ဦး စိုင်းအောင်ကြိုး

( ၂ ) ဦး ထက်အောင်လှိုင်

( ၃ ) ဦး သန်းနိုင်ဇော်

( ၄ ) ဦး သိန်းတန်

( ၅ ) ဦး စောလှထွန်း

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက် ရောက်စေရမည်။

